## စိုင်ကော်လို့ ချုံပေါ်ရောက်

စိုင်သတ္တဝါ၏ ပင့်ကော် ဝှေ့ခတ်ခြင်း ခံရသော်လည်း အန္တရာယ်မဖြစ်ရုံမျှမက ဘေးလွတ်ရာ ချုံပေါ်သို့ပင် ရောက်သွားသူကဲ့သို့ ပျက်စီးကြောင်းနှင့် ကြုံရသော်လည်း နိမ့်ပါးခြင်းမရှိရုံမျှမက ပို၍ပင် အခြေအနေ ကောင်းမွန်သွားသည်။

(စကားပုံ)

# ငါးလွန်မှ ကွန်စွန့် (စကားပုံ)

ငါးအဝေးသို့ရောက်သွားသောအခါမှ ငါးဖမ်းရန် ကွန်ပစ်သကဲ့သို့ အချိန်အခါကုန်လွန်သွားခါမှ အားထုတ်လုပ်ကိုင်သည်။

ငါးလွန်မှကွန်ပစ်-ဟူ၍လည်း အသုံးရှိသည်။

## စိန်နားကပ်ရောင်ကြောင့် ပါးပြောင်

စိန်နားကပ် အရောင်ဟပ်မှုကြောင့် ပါးပြောင်ခြင်း ဖြစ်သကဲ့သို့ သူတစ်ပါး၏ ဂုဏ်အရှိန်အဝါကြောင့် လူလူသူသူ ဖြစ်နေသည်။

(စကားပုံ)

## ငါးစာသာ မြင် ငါးမျှားချိတ် မမြင် (စကားပုံ)

ငါးစာကိုသာ မြင်၍ ငါးမျှားချိတ်ကို မမြင်သော ငါးကဲ့သို့ ရရှိမည့် အကျိုးကိုသာ မြင်၍ ကြုံတွေ့ရမည့် အန္တရာယ်ကို မမြင်နိုင်ဖြစ်သည်။

## စာဥဒေါင်းအုပ်၊ ဒေါင်းဥစာအုပ်။

စာကလေးဥကို ဒေါင်းက လုံခြုံစွာ အုပ်နိုင်သည်။ ဒေါင်းဥကို စာကလေးက လုံခြုံစွာ မအုပ်နိုင်။ ထို့အတူ စီမံအုပ်ချုပ်ရာ၌ စီမံရသည့်တာဝန်နှင့် စီမံသူ၏ အရည်အချင်း လျော်ကန်မှုရှိမှ အောင်မြင်မှု ရရှိနိုင်သည်။

(စကားပုံ)

## ငါးစိမ်း မြင် ငါးကင် ပစ် (စကားပုံ)

မြေခွေးသည် ငါးစိမ်းကို မြင်ကာမျှနှင့် မိမိ ပါးစပ်ထဲသို့ ရောက်ပြီးသား ငါးကင်ကို စွန့်ပစ်သကဲ့သို့ အသစ်ကို မြင်ကာမျှနှင့် မိမိလက်ဝယ်ရှိသော အဟောင်းကို စွန့်ပစ်သည်။

## စားရကံကြုံလို့ မုတ်ဆိတ်ပျားစွဲ

ပျားရည်၊ ပျားသလက်စားရရန် အခွင့်ကြုံသဖြင့် မိမိ၏ ခံတွင်းဝအနီး မုတ်ဆိတ်၌ ပျားလာ၍ စွဲဘိသကဲ့သို့ ကံကောင်းကြုံသဖြင့် မိမိလက်တွင်းသို့ အခွင့်အလမ်းကောင်းကြီးတစ်ခု တိုက်တိုက်ဆိုင်ဆိုင် ရောက်လာသည်။

(စကားပုံ)

## စစ်မရောက်မီ မြှားကုန်

စစ်မရောက်ခင်ကပင် အစိုးရိမ်ကြီးကာ ကြိုတင်စမ်းသပ်ရင်း မြှားကုန်နှင့်သကဲ့သို့ လုပ်ရမည့် အလုပ်တစ်ခုကို မလုပ်မီကပင် အစိုးရိမ်ကြီးကာ အခက်အခဲများကို တွေးတောရင်း အားကုန်နှင့်သည်။

(စကားပုံ)

## စီးတဲ့ရေ ဆည်တဲ့ကန်သင်း

စီးဝင်လာသောရေကို လယ်ကွင်းထဲ၌ တည်နေအောင် ကန်သင်းဆည်၍ ပိတ်ထားရသကဲ့သို့ အိမ်ထောင်တစ်ခုတွင် လင်ယောကျ်ား ရှာဖွေ၍ရသော စီးပွားဥစ္စာကို မလေမလွင့်ရအောင် အိမ်ရှင်မဖြစ်သူက ထိန်းသိမ်းရသည်။

(စကားပုံ)

## စိန်ကောင်းကျောက်ကောင်း ရောင်းဝယ်ရာ ဆေးရိုးသည်က ကန့်လန့်ကန့်လန့်

စိန်ကောင်းကျောက်ကောင်း အရောင်းအဝယ် ပြောဆိုရာတွင် ဆေးရိုးသည်က ကြားမှ ဝင်ဝင်ပြီး သူ့ဆေးရိုးကောင်းကြောင်း ပြောဆိုသကဲ့သို့ အရေးပါသော စကားပြောဆိုကြရာဝယ် မသိနားမလည်သူက မဆိုင်သော စကားကို ကြားက ဝင်ရောက်ပြောဆိုသည်။

## စိုသောလက် မခြောက်စေနှင့်

ခံယူသောလက်သို့ ရေသွန်းလောင်း၍ ပေးကမ်းလှူဒါန်းသော အစဉ်အလာ ရှေးက ရှိခဲ့ဖူးသည်။ အလှူရှင်၏ ကျေးဇူးတရားကို မမေ့ခြင်းသည် အလှူခံအဖို့ မိမိ၏ စွတ်သောလက်ကို မခြောက်စေခြင်းတည်း။ ထို့အတူ တစ်စုံတစ်ရာ ကျေးဇူးပြုသူအား မည်သည့်အခါမျှ မမေ့အပ်။

(စကားပုံ)

## စစ်ရောက်မှ မြားချွန် (စကားပုံ)

ရန်သူစစ်တပ် ချီတက်ရောက်ရှိလာမှ မြားချွန်သကဲ့သို့ ရင်ဆိုင်ရမည့် အရေးကိစ္စအတွက် ကြိုတင်ပြင်ဆင်ထားခြင်းမရှိဘဲ ပက်ပင်းပါ ကြုံတွေ့လာခါမှ ပြင်ဆင်မှု စတင်ပြုလုပ်သည်။

## စူဠလိပ် ရေထဲလွှတ်

စူဠလိပ်ကို သေစေလို၍ ရေထဲသို့ ပစ်ချလိုက်ရာတွင် မသေရုံသာမက အကြိုက်ပင်တွေ့သွားသေးသကဲ့သို့ သူတစ်ယောက်ကို ဒုက္ခရောက်စေလိုသည့် သဘောဖြင့် ပြုမူလိုက်ရာတွင် ဒုက္ခမရောက်ရုံသာမက သူ့အလိုကျပင် ဖြစ်သွားသည်။

၂။ စူဠလိပ်ကို ရေထဲလွှတ်လိုက်သည့်အခါ ပြန်လည်၍ မပေါ်လာသကဲ့သို့ ကိစ္စဖြင့် စေလွှတ်လိုက်ရာတွင် ပြန်ပေါ်မလာတော့ချေ။

# စိတ္တေ့သိကိုမှ မကြုံနိုင်ခင် ပုစ္ဆာသိ မေးပြန်သည်

ပထမပုစ္ဆာကို ဖြေဆိုရန် မစဉ်းစားရသေးခင် နောက်ထပ်တစ်ဖန် မေးပြန်သည်ဆိုသကဲ့သို့ တစ်စုံ-တစ်ခုကို ပြီးပြတ်အောင် မလုပ်ရသေးခင် အခြားတစ်ခု ပေါ်လာပြန်သည်။

(စကားပုံ)

မြန်မာစကားပုံ

**စားရမှာလည်း သဲနှင့်ရှုပ်ရှုပ်၊**
**ပစ်ရမှာလည်း အဆီနှင့်ဝင်းဝင်း။**

---

သဲအလူးလူး ဖြစ်နေသော အသားတုံးကို စွန့်ပစ်ရန်လည်းအခက်၊ စားသုံးရန်လည်းအခက် ဖြစ်နေသကဲ့သို့ အပြစ်အနာအဆာရှိသော နှစ်သက်မက်မောဖွယ်အရာတစ်ခုကို ငြင်းပယ်ရန်လည်းအခက်၊ လက်ခံရန်လည်းအခက် ဖြစ်နေသည်။

(စကားပုံ)

## ငါးကြင်းဆီနှင့် ငါးကြင်းကြော်

ငါးကြင်းမှရသောအဆီဖြင့် ငါးကြင်းကို ကြော်သကဲ့သို့ ကိစ္စတစ်ရပ်မှရရှိသည့် အကျိုးအမြတ်ဖြင့်ပင် ထိုကိစ္စပြီးမြောက်အောင်မြင်စေသည်။

(စကားပုံ)

## ငရုတ်သီးပိုး အစပ်မကြောက် (စကားပုံ)

၁။ ငရုတ်သီး၌ ခိုအောင်းနေသောပိုးသည် အပူအစပ်ကို မကြောက်သကဲ့သို့ ဆင်းရဲဒုက္ခနှင့် ကြီးပြင်းလာရသူသည် ဆင်းရဲဒုက္ခကို မကြောက်တော့ချေ။

၂။ ငရုတ်သီး၌ ခိုအောင်းနေသောပိုးသည် အပူအစပ်ကို မကြောက်သကဲ့သို့ မကောင်းမှု၌ မွေ့လျော်သူသည် မကောင်းမှုကို ပြုရန် မကြောက်တော့ချေ။

မြန်မာစကားပုံ

ဆူးပေါ်ဖက်ကျ ဖက်ပေါက်၊
ဖက်ပေါ်ဆူးကျ ဖက်ပေါက်။

ဖက်ပေါ်ဆူးကျလျှင် ဖက်ပေါက်၍ ဆူးပေါ်ဖက်ကျလျှင်လည်း ဖက်သာပေါက်ရသကဲ့သို့ အားကြီးသူနှင့် အားနည်းသူ ရင်ဆိုင်ရလျှင် အားနည်းသူသာ နစ်နာရသည်။

(စကားပုံ)

## ဆင်အိပ်ရာ ဆိတ်နှိုး (စကားပုံ)

သူ့ဘာသာ အိပ်ပျော်နေသော ဆင်ကို ဆိတ်က သွားနှိုးသကဲ့သို့ သူ့ဘာသာ ငြိမ်ဝပ်နေသည့် ကိစ္စကို ပြဿနာပေါ်အောင် အစဖော်သည်။

## ငှက်မသိတော့ ဆက်ရက် ချိုးထင်

ငှက်ကို ခွဲခြား၍ မသိပါက ချိုးငှက်ကိုပင် ဆက်ရက်ဟု ထင်တတ်သကဲ့သို့ လူကို ကောင်းဆိုး မခွဲခြားတတ်သူသည် လူကောင်းကိုပင် လူဆိုးဟု ထင်သည်။

(စကားပုံ)

## ဆပ်ပြာကောင်းလို့ ခေါင်းပေါင်းဖြူ

ခေါင်းပေါင်းဖြူသည်မှာ ဖွပ်လျှော်သူ တော်၍ မဟုတ်ဘဲ ဆပ်ပြာကောင်းသောကြောင့် သာလျှင် ဖြစ်သကဲ့သို့ ဟန်ကျပန်ကျ ဖြစ်နေခြင်းမှာ ပြုလုပ်သူ၏ အစွမ်းသတ္တိကြောင့် မဟုတ်ဘဲ အထောက်အပံ့ ကောင်း ရှိခြင်းကြောင့်သာဖြစ်သည်။

## ဆန်စဉ်ရာ ကျည်ပွေ့မလိုက်နိုင်

မောင်း၌ တပ်ဆင်ထားသော ကျည်ပွေ့သည် ဆုံမှ စဉ်ထွက်သမျှ ဆန်စေ့များ၏နောက်သို့ လိုက်၍ မထောင်းနိုင် သကဲ့သို့ ပင်မကိစ္စကို လွှတ်ပြီး နှီးနွှယ်ရာ အသေးအမွှားကိစ္စများနောက်သို့ လိုက်၍ မလုပ်နိုင်ချေ။

(စကားပုံ)

## ငရဲပန်းကို ရွှေပန်းထင်

မိတ္တဝိန္ဒကမည်သော လူငယ်သည် မိမိအား ညှဉ်းဆဲသတ်ဖြတ်မည့် သင်တုန်းစက်ကို ရွှေပန်း ထင်မှတ်၍ လိုချင်တောင့်တမိသကဲ့သို့ မိမိအား ဒုက္ခပေးမည့် အရာကို အကောင်းထင်မှတ်၍ မက်မောသည်။

(စကားပုံ)

## ဆင်ကန်း တောတိုး (စကားပုံ)

ဆင်ကန်းသည် လမ်းမှန်းမသိ၊ တောချုံမှန်းမသိ ဇွတ်တိုး၍ သွားသကဲ့သို့ ဉာဏ်အမြော်အမြင် နည်းပါးသူသည် အမှန်အမှားကိုမသိ၊ မိမိထင်ရာ မြင်ရာ ဇွတ်ပြောဆိုပြုမူသည်။

## ဆောက်ဖြစ်မှ ကျောင်းဒကာ

ကျောင်းဆောက်လှူဒါန်းဖြစ်မှသာ ကျောင်းဒကာ ဖြစ်ရန် ရေရာမည်။ ထို့အတူ လိုအပ်ချက် တစ်စုံ တစ်ရာ ပြေလည်မှသာ ဖြစ်မြောက်ရန် ရေရာမည်။

(စကားပုံ)

မြန်မာစကားပုံ

## ဆရာများ သားသေ

ဆေးဆရာအမျိုးမျိုး၏ လက်တည့်စမ်း ကုသမှုကို ခံယူမိသဖြင့် သားလူနာ သေဆုံးရသကဲ့သို့ တစ်ယောက်တစ်ပေါက် ဩဇာပေးမှုများသောကြောင့် လုပ်ငန်း ပျက်စီးဆုံးရှုံးရသည်။

(စကားပုံ)

## ငါမွေးသည့် မျောက် ငါ့ကို ခြောက်

မိမိ မွေးထားသော မျောက်က မိမိကို ပြန်ခြောက်သကဲ့သို့ မိမိပြုစုစောင့်ရှောက်ထားခဲ့သောသူက မိမိအား မလေးမခန့် ပြုမူပြောဆိုသည်။

(စကားပုံ)

## ဆင်လိုက်မှ သစ်ပင်ရှာ

ဆင်လိုက်သောအခါမှ ပုန်းကွယ်ရန် သစ်ပင်ရှာသကဲ့သို့ မရှုနိုင်မကယ်နိုင်ဖြစ်ခါမှ အားကိုးစရာရှာသည်။

(စကားပုံ)

# ငရုတ်သီးနဲ့ပေါင်းမှ ကြက်သွန်အထောင်းခံရ

ငရုတ်သီးနှင့်အတူ တစ်ဆုံတည်း ကျခါမှ ကြက်သွန်သည် အထောင်းခံရသကဲ့သို့ မသူတော်နှင့် ပေါင်းမိခါမှ မိမိပါ ဒုက္ခရောက်ရသည်။

(စကားပုံ)

# ငပိနဲ့လောက်၊ ရွှေနဲ့ကျောက်။(စကားပုံ)

ငပိသည် လောက်နှင့် မကင်းနိုင်၊
ကျောက်သည်လည်း ရွှေနှင့်မကင်းနိုင်။
ထို့အတူ လောကတွင် တစ်ခုနှင့်တစ်ခု
မကင်းနိုင်သော သဘောတရားများရှိသည်။

“ငပိနှင့်လောက်၊ ရွှေနှင့်ကျောက် ဆိုဘိသို့ လယ်သမားနှင့်
မြေတို့မှာလည်း မကင်းနိုင်ကြရှာပေ။”



မြန်မာစကားပုံ

## ဆန်မရှိ အစားကြီး

ဆန်မရှိဘဲ အစားကြီးသူကဲ့သို့ မိမိ၌ အခြေအနေ မရှိဘဲ ကြီးကြီးကျယ်ကျယ် ပြုမူပြောဆိုသည်။

(စကားပုံ)

## ဆံထုံးထုံး ဆီစိုက် (စကားပုံ)

ဆံထုံးထုံး ကျွမ်းကျင်သူသည် ဆံထုံးထုံးပေးရာတွင် ခေါင်းလိမ်းဆီပါ စိုက်၍ထုံးပေးရသကဲ့သို့ အကူအညီ ပေးရာတွင် လုပ်အားသာမက ပစ္စည်းပါစိုက်၍ လုပ်ကိုင်ပေးရသည်။

## ငါ့စကား နွားရ

မှန်သည် ဖြစ်စေ၊ မှားသည် ဖြစ်စေ။ ငါ့စကားကြောင့်သာ နွားရသည်ဟု တစ်ဖက်သတ် ဇွတ်တရွတ် ပြောဆိုသကဲ့သို့ ယုတ္တိရှိသည် ဖြစ်စေ၊ မရှိသည် ဖြစ်စေ ကိုယ်လိုရာကိုချည်း တစ်ဖက်သတ် ဇွတ်တရွတ် ပြောဆိုသည်။

(စကားပုံ)

## ငါးရှူးမျက် လက်တို

လည်ချောင်း၌ စူးနေသော ငါးရှူးကို လက်ဖြင့်နှိုက်ထုတ်ရန် ကြိုးပမ်းသော်လည်း လက်တိုသဖြင့်မနှိုက်ယူနိုင်သကဲ့သို့ ဖြစ်မြောက်နိုင်သည့်နည်းလမ်းကို သိ၍ ဆောင်ရွက်လိုပါလျက် မဖြည့်ဆည်းနိုင်သည့် ချို့တဲ့မှုကြောင့် မဆောင်ရွက်နိုင်ဖြစ်သည်။

(စကားပုံ)

# ငှက်ပျောပင်စိုက် မိလိုက်ဘပါ

ငှက်ပျောပင်စိုက်လျှင် စိုက်သည့်မျိုးအတိုင်း အပင်ပေါက်သကဲ့သို့ သားသမီးတို့၏စရိုက်သည်လည်း မိဘမျိုးရိုး၏ စရိုက်အတိုင်း ဖြစ်လာသည်။

မြန်မာစကားပုံ

## ငါးတကာ ယိုသည့်ချေး ပုစွန်ဆိတ်ခေါင်းမှာစု

ပုစွန်ဆိတ်၏ခေါင်း၌ အညစ်အကြေးများ ပြည့်နေသဖြင့် ငါးတကာ၏ချေးသည် ပုစွန်ဆိတ်ခေါင်း၌ စုနေသည်ဟု ပြောစမှတ်ဖြစ်သကဲ့သို့ အများတကာ ပြုလုပ်သောအပြစ်များသည် တစ်ဦးတည်း အပေါ်တွင်သာ ပုံ၍ ကျရောက်သည်။

(စကားပုံ)

# ငါးကြော်မကြိုက် ကြောင်မိုက်

ငါးကြော်ကို တွေ့ပါလျက် မစားသောကြောင်သည် ကြောင်မိုက်သာ ဖြစ်သကဲ့သို့ အခွင့်ကောင်းရပါလျက် မယူလိုက်သူသည် လူမိုက်သာ ဖြစ်သည်။

(စကားပုံ)

မြန်မာစကားပုံ

## ငိုချင်လျက် လက်တို့ (စကားပုံ)

ငိုတော့မည်ဆဲဆဲ ကလေးငယ်သည် လက်ဖြင့် အတို့ ခံရရုံမျှဖြင့် ငိုဖြစ်သွားသကဲ့သို့ တစ်စုံတစ်ခု ပြုလုပ်ရန် ထက်သန်နေသူတစ်ဦးကို အနည်းငယ် တို့လိုက်ရုံမျှဖြင့် လုပ်ဖြစ်သွားသည်။

## ငါးပိဖုတ်မျက်နှာသာပေး ရွှေရေးပန်ကန်တက်

ငါးပိဖုတ်ကို လိုလားကြောင်းပြသည့်အခါ စလောင်းပေါ်နေရမည့် ငါးပိသည် ရွှေရေးပန်ကန်ပေါ် ရောက်လာသကဲ့သို့ အသိအလိမ္မာနည်းသူကို မျက်နှာသာပေးမိသောအခါ ကမ်းတက်သည်။

(စကားပုံ)

## ငရဲကလာသူ ပြာပူမကြောက်

ငရဲတွင် ငရဲမီး၏ အပူကို ခံစားဖူးသူသည် ပြာပူမှု လောက်ကို မကြောက်တော့သကဲ့သို့ ကြီးမားသော ဒုက္ခကို ခံစားရဖူးသူသည် သာမန်ဒုက္ခမျိုးကို မကြောက်တော့ချေ။

ငရဲတွင် ငရဲမီး၏ အပူကို ခံစားဖူးသူသည် ပြာပူမှု လောက်ကို မကြောက်တော့သကဲ့သို့ ကြီးမားသော အပြစ်ကို ကျူးလွန်ဖူးသူသည် သာမန်အပြစ်မှု လောက်ကို ကျူးလွန်ရန် မခဲယဉ်းတော့ချေ။

(စကားပုံ)

## ငုတ်မိသဲတိုင် တက်နိုင်ဖျားရောက်

ရေငုပ်လျှင် သဲတိုင်အောင်ငုပ်၊ သစ်ပင်တက်လျှင် အဖျားတိုင်အောင် တက်သကဲ့သို့ အလုပ်တစ်ခုကို မဆုတ်မနစ်သော ဇွဲဖြင့်လုပ်လျှင် ဆုံးခန်းတိုင် ပြီးမြောက်သည်။

(စကားပုံ)

## ငုံးဆူ လူမသိ (စကားပုံ)

ငုံးသည် ဆူဆူညံညံ အော်မြည်တတ်သော်လည်း အကောင်သေးငယ်သည့်အပြင် မမြင်သာအောင် ပုန်းအောင်းနေတတ်၍ ငုံးဆူသံကို လူတို့မသိသကဲ့သို့ မိမိရင်တွင်း၌ ပူပင်သောကဆူဝေနေသော်လည်း ပိပိရိရိနေခြင်းဖြင့် အများကမသိနိုင်ပေ။

## ငှက်တစ်ကောင် မြားတစ်စင်း

ငှက်တိုင်းလိုလိုပင် ငှက်ခတ်သမားတို့၏ အန္တရယ်ကြောင့် တစ်နေ့မဟုတ်တစ်နေ့ မြားတစ်စင်းစင်း သင့်နိုင်သကဲ့သို့ လူတိုင်းကိုယ်စီပင် တစ်နေ့မဟုတ် တစ်နေ့ ပြဿနာတစ်မျိုးမျိုးနှင့် ကြုံရမြဲဖြစ်သည်။

(စကားပုံ)

## ငါ့သမီးတော်လှဆို ယောင်းမမြင်းစီးထွက်

ငါ့သမီးတော်လှသည်ဟု ချီးမွမ်းခါမှ သမီးဖြစ်သူက ယောင်းမကို မြင်းစီး၍ ထွက်လာသကဲ့သို့ အထင်-တကြီး ချီးမွမ်းခါမှ မဖွယ်မရာ ပြုမူပြောဆိုသည်။

(စကားပုံ)

## ဆယ့်နှစ်မှူ ပေါ်မှ ရေကြည်တော်ထပ်

ဆယ့်နှစ်မှူမင်းတိုင်းတာဝန်ပေါ်တွင် ထပ်ဆင့်၍ ရေကြည်တော်တာဝန် တိုးပြန်သကဲ့သို့ မူလက တာဝန်များပြားရသည့်အပေါ်တွင် နောက်ထပ်တာဝန် တိုးလာပြန်သည်။

ဘူးလေးရာ ဖရုံဆင့်- နှင့်အတူတူ။

(စကားပုံ)

## ငါးသိုင်းများ ဟင်းဟုံ (စကားပုံ)

ဟင်းချက်ရာတွင် ငါးသိုင်းကို သင့်ရုံသာခတ်လျှင် အရသာရှိသော်လည်း အလွန်အကျွံခတ်လျှင်မူ မူလ ဟင်း၏အရသာ မပေါ်လွင်သကဲ့သို့ ကောင်းသည်ဆို သော အရာများသည်ပင် လိုအပ်သည်ထက်ပိုလွန်က အကောင်းမပေါ်လွင်နိုင်တော့ချေ။

## ငိုတတ်သည့်ကလေး နို့စို့ရ

ငိုတတ်သော ကလေးသည် နို့ စို့ရသကဲ့သို့ နားပူနားဆာ လုပ်တတ်သူသည် မိမိ လိုချင်သည့် အရာကို ရရှိသည်။

(စကားပုံ)

## ဆင်ပေါက် ကောက်လှိုင်းခိုး

အားကြီးသော ဆင်ပေါက် စင်စစ်ဖြစ်ပါလျက် အလွယ်တကူရသော ကောက်လှိုင်းကို မဖွယ်မရာ ခိုးယူစားသကဲ့သို့ မိမိအဆင့်နှင့် မလျော်ညီ၊ အောက်ကျသောအမှုကို မဖွယ်မရာ ပြုသည်။

# ငါးတု ခရုပွက် အိုင်ပျက်

သဘာဝအားဖြင့် ငါးကဲ့သို့ မပွက်နိုင်သော ခရုက ငါးကို တုပ၍ ပွက်သဖြင့် အိုင်၌ ငါးရှိသည်ထင်ပြီး ပက်ခြင်းကြောင့် ရေအိုင်ပျက်စီးရသကဲ့သို့ မတုပသင့်သည်ကို တုပယှဉ်ပြိုင်သဖြင့် မိမိရောပတ်ဝန်းကျင်ပါ ထိခိုက်ပျက်စီးရသည်။

(စကားပုံ)

## ငရဲခွေးကို ရဲဆေးတင်ဖို့ မလို။

ပင်ကိုအားဖြင့် ရဲရင့်ပြီးဖြစ်သော ငရဲခွေးကို နောက်ထပ် ရဲဆေးတင်ရန် မလိုအပ်သကဲ့သို့ ပင်ကိုအားဖြင့် မိုက်ပြီးသောသူကို ပို၍ မိုက်အောင် အားပေးအားမြှောက်ပြုရန် မလိုချေ။

(စကားပုံ)

## ငရဲရောက်မှ ကျောင်းဆောက်ချင်

အသက်ရှင်နေစဉ်အခါ တစ်စုံတစ်ခုသော ကုသိုလ်ကောင်းမှုပြုန်ရန် သတိမရဘဲ သေပြီး ငရဲရောက်ခါမှ ကုသိုလ်ရရန် ကျောင်းဆောက်ချင်သကဲ့သို့ ဆင်းရဲဒုက္ခရောက်ပြီး အခါနှောင်းမှ ပြုပြင်ရန် နောင်တရသည်။

(စကားပုံ)

မြန်မာစကားပုံ

## ဆင်ပိန် ကျွဲလောက်

ဆင်သည် ကြုံလှီသွားစေကာမူ ကျွဲကိုယ်ထည်လောက် ရှိသေးသကဲ့သို့ ကြွယ်ဝချမ်းသာသူသည် စီးပွား ကျဆင်းစေကာမူ သာမန်သူတို့ထက် စီးပွားထုထည် ရှိသေးသည်။

(စကားပုံ)

**ဆင်ချည်သောကြိုး ကြက်ချည်သော်မမြဲ၊
ကြက်ချည်သောကြိုး ဆင်ချည်သော်မခိုင်။**

ဆင်ချည်သော်ကြိုးဖြင့် ကြက်ကို ချည်သော် ကျွတ်ရာ၏။ ကြက်ချည်သောကြိုးဖြင့် ဆင်ကိုချည်သော် ပြတ်ရာ၏။ ထို့အတူ ဝန်နှင့်အား လျော်ကန်ခြင်းမရှိလျှင် လုပ်ငန်းချောမွေ့ အောင်မြင်ခြင်း မရှိနိုင်။

(စကားပုံ)

## ဆင်ဝန်ကတော် အကြောင့်ကြ

ဆင်ဝန်ကတော်သည် မိမိနှင့် မသက်ဆိုင်ဘဲ ဆင်အတွက် ကြောင့်ကြသကဲ့သို့ မိမိနှင့် မဆိုင်သော ကိစ္စအတွက် ကြောင့်ကြပိုသည်။

ယုန်အတွက် ချုံက ကြောင့်ကြ - နှင့် အတူတူ။

(စကားပုံ)

## ငါးရံ့ရ အတူတူ၊ ငါးခူရ ခွဲခြမ်းခွဲခြမ်း

အိုင်ပက်သူနှစ်ဦးသည် ငါးရံ့ကလေးများရသောအခါ နှစ်ယောက်အတူတူ ပိုင်သည်ဟု သဘောထားကြသော်လည်း ငါးခူကြီးများရသောအခါ လောဘဝင်၍ ခွဲခြမ်းခွဲခြမ်းလုပ်သကဲ့သို့ အလုပ်အတူတူလုပ်ကိုင်သူအချင်းချင်း အကျိုးအမြတ်နည်းသော် အကျိုးတူသဘောခံယူနိုင်ကြသော်လည်း အကျိုးအမြတ်များသော် အဝေမတည့် ဖြစ်လာသည်။

(စကားပုံ)

## ဆင်ဖြူတော်မှီ ကြံ့စုပ် (စကားပုံ)

ဆင်ဖြူတော်အတွက် ဆက်သသော ကြံကို ဆင်ထိန်းက ကပ်မြောင်၍ စုပ်သကဲ့သို့ အရှိန်အဝါရှိသူကို မှီ၍ အခွင့်အရေးယူသည်။

## ဆင့်ပါးစပ် နှမ်းပက်

ဆင်ကောင်ကြီးပါးစပ်အတွင်း နှမ်းစေ့ အနည်းငယ်သာ ပက်ကျွေးနေသကဲ့သို့ အမြောက်အမြား လိုအပ်ရာတွင် မစို့မပို့သာ ပံ့ပိုးသည်။

## ဆရာမပြ နည်းမကျ (စကားပုံ)

ဆရာက လက်ထပ်သင်ကြား မပေးလျှင် လက်ရေး လက်သား နည်းမကျသကဲ့သို့ အတွေ့အကြုံရှိသူ ကျွမ်းကျင်သူက စနစ်တကျ ပြသပေးခြင်း မရှိလျှင် နည်းလမ်းမကျမန ဖြစ်သည်။

## ဆင်ကောင်ကြီးတွေ့မှ ဆင်ခြေရာရှာရန်မလို

ဆင်ကောင်ကို တွေ့ရပြီးဖြစ်၍ ဆင်ဟုတ်မဟုတ် ခြေရာရှာဖွေကြည့်ရန် မလိုတော့သကဲ့သို့ လက်ဆုပ်လက်ကိုင် တွေ့ထားပြီးဖြစ်၍ ဟုတ်မဟုတ်ကို သဲလွန်စရှာရန် မလိုတော့ပေ။

(စကားပုံ)

## ကေန်းသေ ငွေ ပေါ်လိမ့်မည်။

ကေန်း သေလွန်သော် ကေန်းထက်သာ ငွေ ပေါ်ပေါက်လာမည်ဆိုသကဲ့သို့ သူတစ်ယောက် မရှိသော် သူထက်သာသော အခြားတစ်ယောက် ပေါ်လာလိမ့်မည်။

(စကားပုံ)

## ငွေတစ်ပဲနှင့် ငါးကြင်းခေါင်းကိုင်

ငွေတစ်ပဲလောက် ရှိကာမျှနှင့် တန်ဖိုးကြီးသော ငါးကြင်းခေါင်းကိုဝယ်ရန် ကြံသူကဲ့သို့ မဖြစ်စလောက် အခြေအနေနှင့် အကြီးအကျယ်ကို မှန်းသည်။

(စကားပုံ)

## ဆင်ဖြူမျက်နှာ ဆင်မည်းမကြည့်ဝံ့။

ဆင်ဖြူတော်ကို ဆင်မည်းက ရင်မဆိုင်ရဲသကဲ့သို့ ဂုဏ်သိက္ခာ အရှိန်အဝါကြီးမားသူကို ဂုဏ်သိက္ခာ ချို့တဲ့သူက မျက်နှာချင်းမဆိုင်ဝံ့ပေ။

(စကားပုံ)

## ငါးမရ ရေချိုးပြန် (စကားပုံ)

ငါးရှာသူသည် ငါးမရသော်လည်း လာရကျိုးနပ်စေရန် ရေချိုး၍ ပြန်သကဲ့သို့ ရည်ရွယ်ရင်းအကျိုးတရား မပြီးမြောက်သော်လည်း အချည်းနှီး မဖြစ်စေရန် အခြား လွယ်လွယ်ကူကူ ရနိုင်သော အကျိုးကို ရယူခံစားသည်။

## ဆေးသမားမထောင်းတာ၊ လူနာမခံချို။

ဆေးသမားက မဖြစ်စလောက်သော ဝေဒနာခံရမည်ဟုယူဆသော ကုထုံးသည် လူနာအဖို့မူ မခံမရပ်နိုင်အောင် ဝေဒနာခံရသကဲ့သို့ ပြုမူသူအဖို့ မဖြစ်-စလောက်ဟု ထင်ရသောအမှုသည် အပြုခံရသူအဖို့ မခံမရပ်နိုင်အောင် ဖြစ်ရသည်။

(စကားပုံ)

# ဆင်ဖြူတော်ဝင်မှာ ချည်တစ်ဝင်နှင့် ကျိန်းကျေ

ဆင်ဖြူတော်ဝင်ကိန်းရှိရာတွင် ချည်ဝင်တစ်လုံး ဝင်လာသည်နှင့် ကျိန်းကျေသွားသကဲ့သို့ ပစ္စည်းဥစ္စာ အစုလိုက် အပုံလိုက် ဝင်ကိန်းရှိရာတွင် မဖြစ်လောက်သည့် ပစ္စည်းတစ်ခု ဝင်လာသည်နှင့် ကျိန်းကျေသွားသည်။

(စကားပုံ)

## ငါးပွက်ရာ ငါးစာ ချ (စကားပုံ)

ငါးစာတပ်ထားသော ငါးမျှားချိတ်ကို တစ်နေရာတည်းတွင် ချမထားဘဲ ငါးပွက်တိုင်း ငါးပွက်ရာသို့ ပြောင်းရွှေ့ချလျှင် ငါးမမိသကဲ့သို့ အလုပ်တစ်ခုကို စွဲစွဲမြဲမြဲ မလုပ်ဘဲ အကျိုးရှိနိုးနိုးနှင့် အမျိုးမျိုးပြောင်းလဲလုပ်လျှင် အရာမရောက်ဖြစ်တတ်သည်။

ဆင်လိုက်ရာ ဝါကြီး ဝါငယ်ရွေး။

ဆင်လိုက်သဖြင့် အသက်လု၍ ပြေးနေရာတွင် ဝါကြီး ဝါငယ် အစဉ်ကျအောင် ရွေးနေသည်ဆိုသကဲ့သို့ အရေးပေါ်လုပ်ဆောင်ရမည့်အခါတွင် မလိုအပ်သော စီစဉ်မှု ပြုနေသည်။

(စကားပုံ)

## ငါးခုံးမတစ်ကောင်ကြောင့် တစ်လှေလုံးပုပ်

ပုပ်သော ငါးခုံးမတစ်ကောင် လှေပေါ်တွင် ပါလာသောကြောင့် တစ်လှေလုံးပုပ်သည်ဟု အထင်ခံရသကဲ့သို့ မကောင်းသူတစ်ဦးကြောင့် အသိုင်းအဝိုင်းတစ်ခုလုံး နာမည်ပျက်ရသည်။

(စကားပုံ)

## ဆင့်နားရွက် ကြွက်တပ်

ဆင်၏နားရွက်ကို ကြွက်တွင် တပ်ဆင်သကဲ့သို့ အမြင်မတော်လောက်အောင် အရွယ်ပမာဏ မတူမမျှ ဆင်ယင်မွမ်းမံသည်။

(စကားပုံ)

## ဆင်ဖြူတော်ဝင်မှာ
## ချည်တစ်ခင်နှင့် ကျိန်းကျေ

ဆင်ဖြူတော်ဝင်ကိန်းရှိရာတွင် ချည်ဝင်တစ်လုံး ဝင်လာသည်နှင့် ကျိန်းကျေသွားသကဲ့သို့ ပစ္စည်းဉစ္စာ အစုလိုက် အပုံလိုက် ဝင်ကိန်းရှိရာတွင် မဖြစ်လောက်သည့် ပစ္စည်းတစ်ခု ဝင်လာသည်နှင့် ကျိန်းကျေသွားသည်။

(စကားပုံ)

## ဆင်သတ် အရပ်ဝေ

ဆင်ကို သတ်၍ အရပ်ကို ဝေသကဲ့သို့ အလွန်တန်ဖိုးကြီးမားလှသည့်အရာကို အရေးမကြီးသောကိစ္စအတွက် အလဟဿ ဖြုန်းတီးပစ်သည်။

(စကားပုံ)

## ဆန်ပေးမှ ဆေးရ

မိမိက ဆန်ပေးမှ သူ့ထံက ဆေးရှက်ရနိုင်သကဲ့သို့ မိမိက အပေးရှိမှ သူ့ထံက အရရှိသည်။

သမီးပေးမှ သမက်ရ - နှင့်အတူတူ။

## ဆင်မတတ်နိုင် ကြွက်တတ်နိုင်၏

ဆင်သတ္တဝါ မဆောင်ရွက်နိုင်သော ကိစ္စကို ကြွက်သတ္တဝါက ဆောင်ရွက်နိုင်သည် ဆိုသကဲ့သို့ တစ်ခါတစ်ရံ အင်အားကြီးသူ ရာထူးဂုဏ်သိန်ကြီးသူတို့ မဆောင်ရွက်နိုင်သော ကိစ္စကို ထိုအောက်ငယ်သူတို့က စွမ်းဆောင်နိုင်သည်။

## ဆင်ပြောင်ကြီး အမြီးကျမှတစ်

ဆင်ပြောင်ကြီး တစ်ကိုယ်လုံး လွတ်လွတ်ကျွတ်ကျွတ် ထွက်နိုင်ပြီး အမြီးကျမှ တစ်သည်ဆိုသကဲ့သို့ လုပ်ငန်းတစ်ခုကို ချောချောမောမော ဆောင်ရွက်လာပြီး နောက်ဆုံးကျမှ အထစ်ထစ်အငေါ့ငေါ့ ဖြစ်ရသည်။

## ဆွမ်းဆန်ထဲ ကြွက်ချေးရော (စကားပုံ)

၁။ အမွှန်အမြတ် လှူဒါန်းရန်ထားသည့် ဆွမ်းဆန်ထဲ၌ ကြွက်ချေး ပါဝင်နေသကဲ့သို့ အတည်အတံ့ စကားပြောရာ၌ မဆီမဆိုင်အကြောင်းအရာ ဝင်ပြောသည်။

၂။ အမွှန်အမြတ် လှူဒါန်းရန်ထားသည့် ဆွမ်းဆန်ထဲ၌ ကြွက်ချေး ပါဝင်နေသကဲ့သို့ အကောင်းများထဲတွင် အညံ့အဖျင်းများ ရောနေသည်။

## ဆင်လည်း ဆင့်အထွာနှင့်၊
## ပုရွက်ဆိတ်လည်း ပုရွက်ဆိတ်အထွာနှင့်။

ဆင်သည် အကောင်ကြီးသဖြင့် ဆင်နှင့်လိုက်ဖက်အောင် အထွာကြီးပြီး ပုရွက်ဆိတ်သည် အကောင်ငယ်သဖြင့် ပုရွက်ဆိတ်နှင့် လိုက်ဖက်အောင် အထွာငယ်ရသကဲ့သို့ အရာရာတွင် သဘာဝတရားအရ အချိုးအစား ညီမျှသည်သာ ဖြစ်သည်။

## ဆေးစက်ကျရာ အရုပ်ထင်

ကျွမ်းကျင်သောပန်းချီဆရာသည် ဆေးစက်ကျရာမှာ ရုပ်ပုံဖြစ်အောင် စွမ်းဆောင်နိုင်သကဲ့သို့ အတတ်ပညာတစ်ခုခုကို ကျွမ်းကျင်သူသည် ထိုအတတ်ပညာဆိုင်ရာပြုလုပ်သမျှ တင့်တယ်သည်။

(စကားပုံ)

## ဆင်သေကို ဆိတ်ရေနှင့်ဖုံး

အကောင်အထည် ကြီးမားသည့် ဆင်သေကို သေးငယ်သော ဆိတ်သားရေနှင့် ဖုံးသကဲ့သို့ ကြီးမားသော ပြဿနာကို မခိုင်လုံသော ဆင်ခြေဖြင့် ဖုံးကွယ်ရန် အားထုတ်သည်။

## ဆိတ်ဆိတ်နေ ထောင်တန်

မပြောသင့်သောအခြေအနေတွင် ဆိတ်ဆိတ်နေခြင်းသည် တောတစ်ထောင်တန်သည် ဆိုသကဲ့သို့ မပြောသင့်သည့်အချိန်မျိုးတွင် နှုတ်စောင့်စည်းခြင်းသည် အကျိုးများစွာ ရှိသည်။

(စကားပုံ)

## ဆန်ရင်း နာနာဖွပ် (စကားပုံ)

ဆန်ကွဲ ဆန်နုပ် ဖြစ်သွားသော ဆန်သည် ဖွပ်စရာ မလို၊ ဆန်ရင်းကိုသာလျှင် ဖြူသည်ထက်ဖြူအောင် နာနာဖွပ်ရသကဲ့သို့ ဆုံးမစရာရှိလျှင် ရင်းနှီးပြီး ကောင်းဖို့အလားအလာရှိသူကို ဖိ၍ ဆုံးမရသည်။

## ဆွမ်းတော်ထားလို့ ဝမ်းတော်မှ အနိုင်နိုင်

ဆွမ်းတော်အတွက် မဆိုထားဘိ ဝမ်းအတွက်သော်မှ မပြည့်စုံနိုင်သကဲ့သို့ သူတစ်ပါးအား ကူညီရန်မဆိုထားဘိ မိမိအတွက်သော်မှ အခက်အခဲရှိသည်။

(စကားပုံ)

## ဆဲသည်နှင့် ဆန်ချေးနှင့် အဆမတန်။

ဆန်ချေးယူမိရာတွင် အဆဲခံရခြင်းက ချေးယူသည့် ဆန်နှင့်ပင် အဆမတန်သကဲ့သို့ အကူအညီ တောင်းခံမိရာတွင် အနှိမ်ခံရခြင်းက ရရှိသည့် အကူအညီနှင့် အဆမတန် ဖြစ်သည်။

(စကားပုံ)

ဆင်က ကျီစားသည့်သဘောဖြင့် ပြုမူသော်လည်း ဆိတ်အဖို့ မခံသာအောင် နာကျင်သကဲ့သို့ အားကြီးသူက ထိခိုက်လိုသည့်သဘောမပါဘဲ ခပ်ပေါ့ပေါ့ ပြုမူလိုက်သောအမှုသည် အားနည်းသူအဖို့ မခံသာအောင် ဖြစ်ရသည်။

## ဆွမ်းခံရင်း ငှက်သင့်

ဆွမ်းခံထွက်မြဲထွက်စဉ် အလိုလို ငှက်ဖျားသင့်သကဲ့သို့ ရိုးရိုး ပြုမြဲပြုမူ နေထိုင်စဉ် အလိုလို အမှုရောက်လာသည်။

(စကားပုံ)

## ဆင်စွယ်မှန် ပိုးမစား (စကားပုံ)

ဆင်စွယ်မှန်လျှင် ပိုးမစားနိုင်သကဲ့သို့ ခိုင်မာစစ်မှန်လျှင် ဖျက်ဆီး၍ မရနိုင်ပေ။

"မြတ်သည့်သူကား၊ စင်ဖြူမျိုးနွယ်၊ ကျင့်မပယ်တည့်၊ ဆင်စွယ်မှန်ငြား၊ ပိုးမစားသို့။"

## ဆုံမတတ်ဘဲ နှမ်းဖတ်ကြိုက်

ဆီဆုံလှည့်ရန် မတတ်ပါဘဲလျက် နှမ်းဖတ်ကိုမူ ကြိုက်သောနွားကဲ့သို့ လုပ်ငန်းအတွက် ဘာမျှ အထောက်အကူ မပြုနိုင်ပါဘဲလျက် ထိုလုပ်ငန်းမှ ရရှိသည့် အခွင့်အရေးကိုမူ ခံစားလိုသည်။

## ဆွမ်းခူးမျက်နှာမရ၊ ဆွမ်းလောင်းမျက်နှာမရ။

ဆွမ်းခူးခပ်ပေးသောအလုပ်ကို လုပ်ရာတွင်လည်း မျက်နှာကောင်းမရ၊ ဆွမ်းလောင်းသော အလုပ်ကို လုပ်ဆောင်ရာတွင်လည်း မျက်နှာကောင်းမရ ဖြစ်သကဲ့သို့ မည်သည့်အလုပ်တာဝန်ကို လုပ်လုပ် အပြစ် တင်မလွတ် ဖြစ်သည်။

(စကားပုံ)

## ဆင်သွားလျှင် လမ်းဖြစ် (စကားပုံ)

ဆင်သွားရာ တစ်လျှောက်သည် မြေသားကျစ်လစ်ခိုင်မာသဖြင့် စိတ်ချရသော လမ်းကောင်းဖြစ်သကဲ့သို့ ပညာကြီးသူများ လက်ခံအသုံးပြုသော နည်းလမ်းသည် စိတ်ချရသော နည်းလမ်းကောင်း ဖြစ်သည်။

## ဆရာကာပြန် အာခေါင်လှုံ့စူး

ဗျိုင်းကို ဆရာအဖြစ် အသိမှတ်မပြုသော လှုံကစားသမားသည် အာခေါင်လှုံ့စူး၍ သေရသကဲ့သို့ ဆရာကို အန်တုသူသည် နောက်ဆုံးတွင် ပျက်စီးရသည်။

(စကားပုံ)

## ဆရာမှန် အလံမစိုက်နှင့်

ဆရာကောင်းမှန်လျှင် အလံစိုက်ထူကြွားဝါရန် မလို သကဲ့သို့ အရည်အချင်းပြည့်စုံသူမှန်လျှင် မိမိ ဂုဏ်သတင်းကို ထုတ်ဖော်ကြေငြာရန် မလိုချေ။

## ဆင်ဖိုးထက် ချွန်းဖိုးကြီး

ဆင်၏တန်ဖိုးထက် ချွန်း၏တန်ဖိုးက ကြီးသည် ဆို-သကဲ့သို့ ပင်မပစ္စည်းတန်ဖိုးထက် အပိုကိရိယာ တန်ဆာပလာတန်ဖိုးက ပိုကြီးနေသည်။

(စကားပုံ)

# ခွေးမြီးကောက် ကျည်တောက်စွပ်

ကောက်နေသော ခွေးမြီးကို ဖြောင့်စေရန် ကျည်တောက် စွပ်ပေးထားသောလည်း ကျည်တောက် ချွတ်လိုက်သောအခါ ကောက်မြဲတိုင်း ပြန်ကောက် သကဲ့သို့ နကိုဗီဇအားဖြင့် ဆိုးသူကို မည်မျှပင် ပြုပြင် ပေးသော်လည်း အခိုက်အတန့်မျှသာ ကောင်း၍ ဆိုးမြဲတိုင်း ပြန်ဆိုးသည်။

(စကားပုံ)

## ဆင်ခေါင်း ခွေးမချီနိုင်

ဆင်ဦးခေါင်းကို ခွေးသည် ချီလိုသော်လည်း မချီနိုင်သကဲ့သို့ မိမိအားနှင့် မမျှတသော ဝန်ကို ရွက်ဆောင်လိုသော်လည်း မရွက်ဆောင်နိုင်ဖြစ်သည်။

## ဆန်ခိုးမမိ၊ ဖွဲခိုးမိ (စကားပုံ)

ဆန်ကို ခိုးစဉ်က မမိဘဲ ဖွဲကို ခိုးခါမှ မိသကဲ့သို့ ကြီးလေးသောပြစ်မှု ကျူးလွန်စဉ်က အမှုမဖြစ်ဘဲ သေးငယ်သော ပြစ်မှုကို ကျူးလွန်သည့်အခါမှ အမှု ဖြစ်သည်။

(စကားပုံ)

## ဈေးဖိုးတစ်ရာ၊ ဝမ်းစာအစိတ်။

တစ်နေ့စာ စားရန် ဈေးဖိုးငွေတစ်ရာ သုံး၍ တာရှည် စားသုံးရန် ဝမ်းစာအတွက်မူ ငွေအစိတ်ဖိုးမျှသာ သိုမှီးထားသည်ဆိုသကဲ့သို့ အရေးမပါသည်ကို များများ၊ အရေးပါသည်ကို နည်းနည်း ပြုလုပ်သည်။

## တစ်မင်းပြောင်းမှ တစ်မင်းအကြောင်းသိ

မင်းတစ်ပါး၏ ကောင်းကွက်များကို နောင်မင်းတက်လာခါမှ သိရသကဲ့သို့ လူတစ်ယောက်၏ ကောင်းကွက်များကို သူ့နေရာတွင် နောက်လူတစ်ယောက်ရောက်လာမှ ပို၍ သိရှိနားလည်လာသည်။

(စကားပုံ)

နတ်ပြည်သို့ မလိုက်လိုသူအား ဇီကုပ်၍ နတ်ပြည် သို့ ဆွဲတင်သည်ဆိုသကဲ့သို့ ကောင်းရာကောင်းကြောင်း မလုပ်လိုသူအား မလုပ်လုပ်အောင် ပြုသည်။

(စကားပုံ)

# ညှော်သာညှော် ငါးကြော် မစားရ (စကားပုံ)

ညှော်နံ့ ခံရသော်လည်း ငါးကြော်ကိုမူ မစားရသကဲ့သို့ အခွင့်အရေးကို မြင်တွေ့ မျှော်လင့်ရသော်လည်း မခံစားရချေ။

မစားရ အညှော်ခံ -နှင့် အတူတူ။

## ညောင်သီးလည်း စား၊ လေးသံလည်း နားထောင် (စကားပုံ)

ညောင်သီးစားနေသော ငှက်သည် တစ်ဖက်မှ မိမိကို အန္တရယ်ပြုမည့် လေးသံကို နားစွင့်ရသကဲ့သို့ လုပ်ငန်းတစ်ခုကို ဆောင်ရွက်နေစဉ် အန္တရယ်ကိုလည်း တစ်ဖက်က သတိပြုရသည်။

“အယ်ဒီတာဆိုသည်မှာ ညောင်သီးလည်း စား၊ လေးသံလည်း နားထောင် ဟူသကဲ့သို့ အဖက်ဖက်ကို ငဲ့ရမည့်သူ၊ တာဝန်ရှိသူများ ဖြစ်ပေသည်။”

## ညားတော့ဈေးသည်၊ ရွှယ်တော့မဟာနွယ်။

မင်းမျိုးမင်းနွယ်နှင့် အိမ်ထောင်ပြုရန်မှန်းခဲ့သော်လည်း သာမန်ဈေးသည်တစ်ယောက်နှင့်သာ ညားခဲ့သကဲ့သို့ ကြီးကြီးကျယ်ကျယ် ရည်မှန်းထားသော်လည်း တကယ်ဖြစ်လာသောအခါတွင်မူ သာမန်မျှသာ ဖြစ်လာသည်။

(စကားပုံ)

## ညောင်ဦးကမ်းပါးပြို
## ဓမ္မာနဂိုရ်ရက နွားမပေါင်ကျိုး

ညောင်ဦးကမ်းပါး ပြိုသောကြောင့် ဓမ္မာနဂိုရ်ရက နွားမပေါင်ကျိုးရသည်ဟု မဆီမဆိုင် ယိုးမယ်ဖွဲ့ ပြောသကဲ့သို့ အဆက်အစပ်မရှိသော ဖြစ်ရပ်တစ်ခုကို မဆီမဆိုင် ယိုးမယ်ဖွဲ့ ပြောဆိုသည်။

(စကားပုံ)

မြန်မာစကားပုံ

ဈေးမတတ် ရွာအနှုန်း၊ ဆံထုံးမတတ် ရွာဓလေ့။

ပစ္စည်းတစ်ခု၏ ဈေးနှုန်းကို မသိလျှင် မိမိရောက်ရှိရာ ရွာ၏ပေါက်ဈေးအတိုင်း ရောင်းဝယ်ရသည်။ တော်ဝင်ဆံထုံးမျိုး မထုံးတတ်လျှင် ရွာ၏ဓလေ့အတိုင်း ထုံးဖွဲ့ရသည်။ ထို့အတူ မိမိကောင်းစွာ မကျွမ်းကျင်သောကိစ္စ၌ အများနည်းကို လေ့လာ၍ လုပ်ဆောင်ရသည်။

(စကားပုံ)

## ညောင်မြစ်တူး ပုတ်သင်ဥပေါ်။

ညောင်မြစ်တူးရာမှ ပုတ်သင်ဥ ပေါ်လာသကဲ့သို့ တစ်စုံ တစ်ယောက်၏ အပြစ် အနာအဆာကို ဖော်ထုတ်ရာ မိမိ၏ အပြစ်အနာအဆာပါ ပေါ်ပေါက်လာသည်။

(စကားပုံ)

## ကြွက်မနိုင် ကျီမီးရှို့ (စကားပုံ)

ကြွက်များကို မနိုင်သဖြင့် ကြွက်ခိုအောင်းသည့် ကျီကို မီးရှို့သကဲ့သို့ တစ်ဦးတစ်ယောက်ကို မနိုင်၍ ထိုသူနှင့်ပတ်သက်သည့် နိုင်ရာကို အနိုင်အထက် ပြုမူသည်။

(စကားပုံ)

## ကြက်က စပါးစား၊ ထရံက ဒဏ်သင့်

စပါးလာစားသည်က ကြက်၊ ခဲမှန်ခံရသည့်က ထရံ ဖြစ်သကဲ့သို့ အပြစ်ကျူးလွန်းသူကတစ်ဦး၊ မဆီမဆိုင် ခံရသူက တစ်ဦးဖြစ်သည်။

မြန်မာစကားပုံ

## တစ်ရွာပြောင်းမှ သူကောင်း ကျွန်စော်နံ

မိမိရပ်ရွာတွင် နေထိုင်စဉ်အခါကမူ သင့်တင့်လျောက်ပတ်စွာ ရှိသော်လည်း အခြားတစ်ရပ်တစ်ရွာပြောင်းရွှေ့ နေထိုင်ခါမှ ကျွန်အဖြစ်တော့ပင် ဆိုက်ရောက်ရတော့မည့်လောက် အခြေအနေ ပျက်ယွင်းလာသကဲ့သို့ မိမိ၏ မူလအနေအထားကို စွန့်၍ အကွက်အကွင်းသစ်သို့ ပြောင်းခါမှ လွန်စွာ အခြေမလှ ဖြစ်သည်။

## ဇီးကွက်လောက်တော့ ငှက်တိုင်းလှ

ဇီးကွက်၏ အလှမျှလောက်ကား ငှက်တိုင်းတွင်ရှိသည် ဖြစ်သကဲ့သို့ သာမန်မျှလောက်သော အရည်အချင်း မျိုးကား လူတိုင်း၌ ရှိသည်ချည်း ဖြစ်သည်။

(စကားပုံ)

## ကတွတ်ပေါက် ဗျိုင်းစောင့် (စကားပုံ)

ဗျိုင်းသည် ကတွတ်ပေါက်မှ ထွက်လာမည့် ငါးကို ဖမ်းရန် စောင့်မျှော်နေသကဲ့သို့ အခွင့်အလမ်း တစ်စုံတစ်ရာကို မျှော်လင့်ခြင်း ကြီးစွာဖြင့် စောင့်ကြည့်နေသည်။

# ကြက်ဥပြုတ် သံတုတ်နှင့်ချ

ကြက်ဥပြုတ်ကို သံတုတ်နှင့်ရိုက်၍ ခွဲသည် ဆိုသကဲ့သို့ အင်အားကို အရာဌာနနှင့် မလိုက်အောင် အသုံးပြုသည်။

(စကားပုံ)

## ကျားသေမှ လူစွမ်းကောင်းပေါ်

အန္တရယ်ပြုနေသော ကျားကို ကြောက်၍ ထွက်ပြေးပုန်းရှောင်နေကြပြီး ထိုကျားသေမှ လူစွမ်းကောင်းလုပ်လိုသူ ပေါ်ပေါက်လာသကဲ့သို့ အန္တရယ်ပေါ်ပေါက်စဉ် ရှောင်နေကြပြီး အန္တရယ်မရှိတော့သောအခါမှ ဖြေရှင်းမည်ဆိုသူ ထွက်ပေါ်လာသည်။

(စကားပုံ)

## တစ်ရွာမပြောင်း သူကောင်း မဖြစ်

မိမိအတွက် အကျိုးမဖြစ်ထွန်းသည့် နေရင်းဒေသကို မစွန့်ခွာနိုင်၍ သူကောင်းပြု မခံရသကဲ့သို့ ကြီးပွားရာ ကြီးပွားကြောင်း အလားအလာရှိသော နေရာသို့ မရွှေ့ပြောင်းလျှင် မတိုးတက်နိုင်။

(စကားပုံ)

## တစ်ကျောင်းတစ်ဂါထာ၊ တစ်ရွာတစ်ပုဒ်ဆန်း

တစ်ကျောင်းနှင့် တစ်ကျောင်း ရွတ်ဆိုသော ဂါထာ၊ တစ်ရွာနှင့်တစ်ရွာ သီဆိုသော တေးသီချင်းတို့ မတူကြသကဲ့သို့ သူ့နေရာနှင့်သူ အသုံးအနှုန်း လုပ်ထုံးလုပ်နည်း ကွဲပြားသည်။

(စကားပုံ)

## တစ်ထွာပြ တစ်လံမြင်

တစ်ထွာပြလျှင် တစ်လံမြင်သည်ဆိုသကဲ့သို့ တစွန်းတစ်စကို ပြရုံနှင့် ရှေးအလားအလာကို ကြိုတင်မှန်ဆနိုင်သည်။

(စကားပုံ)

## တည်မိတဲ့ဘုရား လင်းတပင် နားနား။ (စကားပုံ)

တည်မိသော စေတီပုထိုးကို လင်းတပင် နားလာသော်လည်း ကိုးကွယ်မြဲ ကိုးကွယ်ရသကဲ့သို့ ဆုံးဖြတ်ချက် အခိုင်အမာချ၍ လုပ်မိသော အလုပ်တစ်ခုအတွက် စိတ်ပျက်စရာများနှင့် မည်မျှပင် ကြုံရစေကာမူ နောက်ပြန်ဆုတ်ရန် လမ်းမရှိပေ။

"တည်မိတဲ့ဘုရား လင်းတပင် နားနား ဆိုသကဲ့သို့ ကိုယ် ကမိသည့် ဇာတ်ကွက်ကိုသာ ဆက်ရပါတော့သည်။"

မြန်မာစကားပုံ

## တစ်ပင်လဲမှ တစ်ပင်ထူ

တိုင်တစ်တိုင် လဲသည့် နေရာတွင် ယင်းအစား တိုင်သစ်တစ်တိုင် စိုက်ထူရရိုးရှိသကဲ့သို့ အိမ်ထောင်သည် လင်နှင့်မယားတို့တွင် အိမ်ထောင်ဖက်တစ်ဦး ကွယ်လွန်လျှင် အိမ်ထောင်သစ် ထူထောင်ရိုးရှိသည်။

(စကားပုံ)

## ကျားသေကို အသက်သွင်းလို့ စင်းစင်းသေရ

ကျားသေကို အသက်သွင်း သူသည် ထိုကျားကိုက်၍ သေရသကဲ့သို့ စွမ်းအား သတ္တိ မရှိတော့သည့် ရန်သူ၊ ပြိုင်ဘက် စသည်ကို အခွင့်အလမ်း ပေးမိ သဖြင့် အန္တရာယ် ကြီးစွာ ပြုခြင်း ခံရသည်။

(စကားပုံ)

## တံခွန်မလွှား ရထားမတင့်

တံခွန်အလံမပါသော ရထားသည် မတင့်တယ်သကဲ့သို့ ရှိသင့်ရှိအပ်သော ဂုဏ်အင်္ဂါရပ် ချို့တဲ့သော အရာသည် မတင့်တယ်ချေ။

## တံငါနားနီး တံငါ၊ မုဆိုးနားနီး မုဆိုး

တံငါနှင့်နီးစပ်သူကို တံငါဓလေ့စရိုက်၊ မုဆိုးနှင့်နီးစပ်သူကို မုဆိုးဓလေ့စရိုက် ကူးစက်သကဲ့သို့ နီးစပ်ရာ၏ ဓလေ့စရိုက် ကူးစက်သည်။

(စကားပုံ)

## တစ်ယောက်အားနှင့် ယူသော်မရ
## တစ်သောင်းအားနှင့် ယူသော်ရ၏

စုပေါင်းအားနှင့် ဝိုင်းဝန်းဆောင်ရွက်လျှင် အောင်မြင်ခြင်းကို ဆိုလိုရင်းဖြစ်သည်။ တစ်ဦးတစ်ယောက်၏ အင်အားနှင့် မသယ်ယူနိုင်သည်ကို အားလုံးစုပေါင်း သယ်ယူလျှင် ရရှိနိုင်ပုံကို သာဓကဆောင်၍ ဖော်ပြသည်။

(စကားပုံ)

## တောင်မင်း မြောက်မင်း မကယ်နိုင်။

ပြဿနာ ကိုယ်စီ ကြုံကြိုက်သောအခါ တောင်ဘက် အရပ်၌ စိုးစံသောမင်းနှင့် မြောက်ဘက်အရပ်၌ စိုးစံသောမင်းတို့ အချင်းချင်း မကယ်နိုင်သကဲ့သို့ ကိုယ့်အခက်အခဲနှင့်ကိုယ် ဖြစ်နေသောအခါတွင် တစ်ဦးကို တစ်ဦး မကူညီနိုင်သော အခြေအနေမျိုးဖြစ်သည်။

မြန်မာစကားပုံ

## တစ်တက်စားလည်း ကြက်သွန်၊ နှစ်တက်စားလည်း ကြက်သွန်။ (စကားပုံ)

ကြက်သွန်သည် တစ်တက်စားလည်း ကြက်သွန်ပင်ဖြစ်၍ အနံ့နံသည်။ နှစ်တက်စားလည်း ကြက်သွန်ပင်ဖြစ်၍ အနံ့နံသည်။ ထို့အတူ မသင့်သော အရာသည် နည်းနည်းပြုသည်ဖြစ်စေ၊ များများပြုသည်ဖြစ်စေ မသင့်သည် သာဖြစ်သည်။

“တစ်တက်စားလည်း ကြက်သွန်၊ နှစ်တက်စားလည်း ကြက်သွန်ပေါ့။
ခုမှတော့ ကျုပ်လည်း လူကောင်းပြန်မဖြစ်တော့ဘူး၊ သူခိုး သူခိုးပါပဲ။”

## လှိုင်းကြီးလှေအောက်၊ တောင်ကြီးဖဝါးအောက်

လှိုင်းလုံးတို့သည် မည်မျှပင်ကြီးမားစေကာမူ လှေ၏အောက်သို့ရောက်ရသည်။ တောင်တို့သည် မည်မျှပင်မြင့်မားစေကာမူ တောင်တက်သူတို့၏ဖဝါးအောက်ရောက်ရသည်။ ထို့အတူ အခက်အခဲတို့သည် မည်မျှပင်ကြီးမားစေကာမူ ကြိုးစားအားထုတ်မှုအောက်၌ ပပျောက်သွားရသည်။

(စကားပုံ)

## တိုက်ဖန်များ သစ်ငုတ်ပင် နဲ့သေး

သစ်ငုတ်သော်မှ တိုက်ဖန်များက နဲ့လာသကဲ့သို့ပင် မည်မျှပင် စိတ်ဓာတ်ခိုင်မာစေကာမူ ပြောဆိုပြုမူခံရဖန်များလာသောအခါ ကြွံကြွံ မခိုင်နိုင်ဘဲ ယိမ်းယိုင်လာသည်။

မြန်မာစကားပုံ

## တပည့်မကောင်း ဆရာ့ခေါင်း

တပည့်မလိမ္မာလျှင် ဆရာတွင် တာဝန်မကင်းသကဲ့သို့ ငယ်သူမလိမ္မာလျှင် ကြီးသူများတွင် တာဝန် မကင်းချေ။

(စကားပုံ)

## တစ်နွယ်ငင် တစ်စင်ပါ

နွယ်တစ်ခုကို ဆွဲငင်လိုက်လျှင် တစ်စင်လုံးရှိ နွယ်များပါလာသကဲ့သို့ ကိစ္စ တစ်စုံတစ်ရာနှင့် ဆက်နွယ်၍ အခြားအခြားသော အရာများလည်း ပါဝင်ပါတ်သက်လာသည်။

(စကားပုံ)

## တစ်ခါလာ မဲပြာပုဆိုး။

တစ်ခါ ဝတ်လာလျှင်လည်း မဲပြာပုဆိုး၊ နောက်တစ်ခါ ဝတ်လာလျှင်လည်း မဲပြာပုဆိုးသာ ဖြစ်သကဲ့သို့ ပြုမူပြောဆို ဖြစ်ပျက်သမျှသည် ထူးခြားဆန်းသစ်မှု မရှိဘဲ ထပ်တလဲလဲ ဖြစ်နေသည်။

(စကားပုံ)

## တောကြောင့် ကျားလုံ၊ ကျားကြောင့် တောလုံ။ (စကားပုံ)

တောအုပ်ကောင်းသဖြင့် ကျားသည် လုံခြုံစွာ ကျက်စားနိုင်သည်။ ကျားရှိသဖြင့် တောသည် လူသူလေးပါး ဖျက်ဆီးမည့် အန္တရာယ်မှ လုံခြုံသည်။ ထို့အတူ အချင်းချင်း အပြန်အလှန် အကျိုးပြုကြခြင်းဖြင့် နှစ်ဦးနှစ်ဝ လုံခြုံစွာ ရပ်တည်နိုင်ကြသည်။

"ဆွေတော်မျိုးတော်တို့ ညီညွတ်သင့်တင့်မှ တောကြောင့် ကျားလုံ၊ ကျားကြောင့် တောလုံ ကျူရှုံ၏သို့ ဖြစ်မည်။"

မြန်မာစကားပုံ

## ဇာတ်တူသားစား၍ ဟင်္သာကိုးသောင်းပျက်

ဟင်္သာအချင်းချင်း ပြန်စား၍ ဟင်္သာကိုးသောင်း ပျက်စီးသကဲ့သို့ မိမိတို့အချင်းချင်း သစ္စာမဲ့၍ အားလုံးပျက်စီးရသည်။

(စကားပုံ)

# ကျွန်ယုံ တစ်ဖက်ကန်း၊ သားသမီးယုံ စုံလုံးကန်း (စကားပုံ)

မိမိ၏ နောက်လိုက်တပည့်များကို ယုံမိလျှင် မျက်စိတစ်ဖက်ကန်းသူကဲ့သို့ ၎င်းတို့၏ အပြစ်များကို အများအားဖြင့် မမြင်နိုင်၊ မိမိသားသမီးအရင်းကို ယုံမိလျှင်မူကား စုံလုံးကန်းသူကဲ့သို့ လုံးဝအပြစ်မမြင်နိုင်။ ဤကဲ့သို့ပင် မိမိနှင့် ရင်းနှီးမှု အတိုင်းအတာအပေါ် မူတည်၍ သူတစ်ဦး၏ အပြစ်ကို မမြင်နိုင်ဘဲ ရှိသည်။

“ကျွန်ယုံ တစ်ဖက်ကန်း၊ သားသမီးယုံ စုံလုံးကန်း ဆိုတာမျိုး ဖြစ်နေပြီ။ တူသားအရင်းအချာတွေမို့ ယုံကြည်စိတ်ချပြီး မျက်နှာ လွှဲထားတာ။”

## တစ်တောစောင့်သည် ခြေတိုင်ကုပ်ကား၊ တစ်အိုင်စောင့်သည် ငါးရံ့တင်ပြောက်။

ကေသရာဇာခြင်္သေ့မင်း တာဝန်ပေးသဖြင့် တောကို စောင့်သော ခြေတိုင်ကုပ်ကားကိုလည်းကောင်း၊ အိုင်ကိုစောင့်သော ငါးရံ့တင်ပြောက်ကိုလည်းကောင်း၊ အခြားသတ္တဝါများက လေးစားရသကဲ့သို့ အကြီးအကဲက သင့်လျော်သဖြင့် တာဝန်ပေးသည်ကို ကျန်လူအများက လေးစားရသည်။

## တောမီးလောင် တောကြောင်လက်ခမောင်းခတ်

တောမီးလောင်၍ တောတွင်းရှိ ယုန်၊ ပုတက်စသော သတ္တဝါငယ်များ ပြေးလွှားနေချိန်တွင် တောကြောင်က အခွင့်အကောင်းပေါ်ပြီဟု ဝမ်းမြောက်ဝမ်းသာဖြစ်သကဲ့သို့ လူအများဘေးဒုက္ခရောက်၍ ကြံမရဖြစ်နေချိန်တွင် လူယုတ်မာများက အခွင့်အကောင်းပေါ်ပြီဟု ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြသည်။

(စကားပုံ)

# တုတ်က မမှန်၊ ကြက်က မှန်။

တုတ်က ကြက်ကို မထိမှန်၊ ကြက်က တုတ်ကို လာ၍ ထိမှန်သည်ဆိုသကဲ့သို့ ယောကျ်ားလေးကစ၍ ချစ်ရေးဆိုရမည့်ထုံးစံနှင့် ပြောင်းပြန် မိန်ကလေးက စတင်သည်။

(စကားပုံ)

## တစ်တော တစ်ဖတွန် (စကားပုံ)

တောတစ်တောလျှင် ကြက်ဖတစ်ကောင် မင်းမူ၍ တွန်သကဲ့သို့ ကိုယ့်နေရာနှင့်ကိုယ် လူထွင်ကျယ် လုပ်နေကြသည်။

## တစ်ချက်ခုတ် နှစ်ချက်ပြတ်

တစ်ချက်ခုတ်ရုံဖြင့် နှစ်ချက်ပြတ်သကဲ့သို့ အလုပ်တစ်ခု ပြုလုပ်ရုံနှင့် ကိစ္စနှစ်ခု ပြီးမြောက်သည်။

(စကားပုံ)

## တလွဲ ဆံပင်ကောင်း (စကားပုံ)

မလိုအပ်သောနေရာတွင် ဆံပင်ကောင်းသည် ဆို-
သကဲ့သို့ အရာမဟုတ်သည်၌ စွန့်စားမှု၊ ကြိုးစားမှု၊
ထူးချွန်မှုများရှိသည်။

## တစ်ခါသေဖူး ပျဉ်ဖိုးနားလည်

နာရေးကိစ္စကို တစ်ခါတွေ့ကြုံရဖူးမှ ပျဉ်ဖိုးနာလည် သည်ဆိုသကဲ့သို့ ဆုံးရှုံးနစ်နာမှုကို ကိုယ်တွေ့ ကြုံဖူးမှ အကြောင်းသိ နားလည်သွားသည်။

(စကားပုံ)

## တိုင်း၍ရက်သည့် ပက္ကလာ မိုးရွာသည်နှင့် အခန့်သင့်

မိမိကိုယ်နှင့် တိုင်း၍ ရက်ထားသကဲ့သို့သော ပက္ကလာကို မိုးရွာသည့်အချိန်နှင့် တိုက်ဆိုင်စွာ အခန့်သင့်ရသကဲ့သို့ အကြောင်းနှစ်ရပ်သည် အခန့်သင့်စွာ တိုက်တိုက်ဆိုင်ဆိုင် ဖြစ်ပေါ်သည်။

(စကားပုံ)

## တစ်သက်လုံးစားသမျှ သံပုရာတစ်ခြမ်းနှင့်ချေ

တစ်သက်လုံးစားလာသမျှ အစာကြောင့်ဖြစ်သော ရောဂါကို သံပုရာတစ်ခြမ်းတည်းဖြင့် ချေဖျက်သည် ဆိုသကဲ့သို့ တစ်သက်လုံးပြုလာသော အထုအထည်ကြီးကို မဖြစ်လောက်သည့် အမှုလေးနှင့် ချေဖျက်သည်။

(စကားပုံ)

## တောင်လဲရာ မြက်ပြတ်

၁။ တောင်ပြိုလဲရာတွင် တောင်နှင့်မကင်းသော မြက်ပင်များသည် ပျက်စီးရသကဲ့သို့ မှီခိုအားထားရာ ပျက်စီးသောအခါ မှီခိုသူတို့ပါ ဒုက္ခရောက်ရသည်။

၂။ တောင်ပြိုလဲရာတွင် တောင်၏ဝန်းကျင်ရှိ မြက်ပင်များပျက်စီးရသကဲ့သို့ အင်အားကြီးမားသောအရာ တစ်ခုပျက်စီးသောအခါ ပတ်ဝန်းကျင်မှ အင်အားနည်းသောအရာများပါ ပျက်စီးရသည်။

## တရုတ်ပြည် အပ်သွားရောင်း

အပ်ပေါများသော တရုတ်ပြည်သို့ အပ်သွားရောင်း သကဲ့သို့ ဒေသတစ်ခုတွင် ပေါများစွာ ရှိနေသော အရာမျိုးကို ထိုဒေသသို့ သွားရောက်ဖြန့်ဖြူးရန် အကြောင်းမတန် အားထုတ်သည်။

## တစ်ယောက်မတန်ကြောင့် တစ်အိုးတန် ပျက်

တစ်ယောက်မစာလောက်ကို နှမြောမိ၍ တစ်အိုးလုံးစာ ပျက်စီးရသကဲ့သို့ အနည်းငယ်မျှကို မြော်မြင်မိ၍ အများအပြား ဆုံးရှုံးရသည်။

(စကားပုံ)

# တစ်ရွာ တစ်ကျီဆောက် (စကားပုံ)

တစ်ရွာလျှင်ကိုယ်ပိုင်စပါးကျီတစ်လုံးကျ ဆောက်ထားသည်ဆိုသကဲ့သို့ ရပ်ရွာတိုင်း၌ မိမိအား ကူညီထောက်ပံ့မည့် မိတ်ကောင်းဆွေကောင်း ရှိထားသည်။

## ကျားရဲရာ ကြံမွှာမယိုးသာ (စကားပုံ)

ကျားဆိုး သောင်းကျန်းရာဒေသတွင် ကံကိုယုံ၍ အတင့်မရဲသာသကဲ့သို့ အန္တရာယ်များသော ကိစ္စတွင် ကံကိုယုံ၍ အတင့်မရဲသာချေ။

## တစ်လင်နေ ပွေးနှင့်၊ တစ်လင်နေ ကြွေးနှင့်။

ပထမအိမ်ထောင်ဖက်က ပွေးထူသဖြင့် ဒုတိယ အိမ်ထောင်ပြုပြန်ရာ ထိုသူကလည်း ကြွေးထူသူ ဖြစ်နေပြန်သကဲ့သို့ တစ်ခုမကောင်းသဖြင့် တစ်ခု ပြောင်းသော်လည်း မည်သည့်အရာနှင့်မှ အဆင်မပြေဘဲ ဖြစ်သည်။

(စကားပုံ)

## တောဆင်အဝေး ခမည်းပေး။

တောထဲ၌ရှိသော ဆင်ရိုင်းတစ်ကောင် ခမည်းပေးသည်ဆိုသကဲ့သို့ စကားအဖြစ် ပြောသော်လည်း တကယ်လက်တွေ့တွင် မဖြစ်နိုင်သည့်ကိစ္စဖြစ်သည်။

(စကားပုံ)

## တိတ်တိတ်နေ ထောင်တန်

မပြောသင့်သော အခြေအနေတွင် တိတ်တိတ်နေခြင်းသည် တောတစ်ထောင်တန်သည် ဆိုသကဲ့သို့ မပြောသင့်သည့် အချိန်အခါမျိုးတွင် နှုတ်စောင့်စည်းခြင်းသည် အကျိုးများစွာ ရှိသည်။

(စကားပုံ)

## တင်းလွန်းလျှင်ပြတ်၊ လျော့လွန်းလျှင်ပတ်။

စောင်းကြိုးညှိရာတွင် တင်းလွန်းလျှင် စောင်းကြိုးပြတ်တတ်၍ လျော့လွန်းပြန်လျှင်လည်း စောင်းကြိုးချင်း ရစ်ပတ်ရှုပ်ထွေးတတ်သကဲ့သို့ စည်းကမ်းထိန်းသိမ်းရေးနှင့် ဆက်ဆံရေးတို့တွင် တင်းလွန်းလျှင်သော်လည်းကောင်း၊ လျော့လွန်းလျှင်သော်လည်းကောင်း အကျိုးမထင် ဖြစ်သည်။

(စကားပုံ)

## ကျွဲပါး စောင်းတီး

ကျွဲ၏အနားတွင် စောင်းကို မည်မျှပင် သာယာစွာ တီးစေကာမူ ကျွဲအဖို့ အချည်းနှီးသာ ဖြစ်သကဲ့သို့ အကောင်းအဆိုး မသိသူအား တန်ဖိုးရှိသော စကားကို နားဝင်အောင် မည်မျှပင် ပြောကြားစေကာမူ ထိုသူအဖို့ အချည်းနှီးသာ ဖြစ်သည်။

(စကားပုံ)

## တစ်နေ့လုံး ကတော်ပေမဲ့ ဥတော့တစ်လုံး

တစ်နေ့လုံး ကတော်ကတော် အော်နေသော်လည်း ဥသောအခါ တစ်လုံးတည်းသာ ဥသကဲ့သို့ စကားဖြင့် ကြာမြင့်စွာ ဟိတ်ဟန်ပြနေသော်လည်း အလုပ်အနေနှင့် မဖြစ်စလောက်သာ အကောင်အထည်ပေါ်သည်။

မြန်မာစကားပုံ

# တန်ဖိုးထက် လက်ခကြီး

ပစ္စည်းတစ်ခု၏ မူလတန်ဖိုးထက် လက်ခက ပိုများသည် ဆိုသကဲ့သို့ အမှုကိစ္စတစ်ခုအတွက် ကုန်ကျသည့်စရိတ်မှာ ရလဒ်နှင့် မကာမိအောင် ကြီးမားလှသည်။

(စကားပုံ)

## တောက်မည့်မီးခဲ အရှိန်နှင့်ရဲရဲ

တောက်မည့် မီးခဲသည် ရဲရဲညီးညီး နေသကဲ့သို့ ထွန်းကားမည့်သူသည် ထူးချွန်မည့် အရိပ်လက္ခဏာများနှင့် သိသာထင်ရှားနေသည်။

(စကားပုံ)

# တစ်တိတစ်တိနှင့် ငါးပိကျိုးချို

အလွန်ကြီးသောငါးပိတုံးဖြစ်သော်လည်း ကျိုးကန်းက တစ်တိတစ်တိနှင့် ချိဖန်များသော် ငါးပိတစ်တုံးလုံး ကုန်သွားရသကဲ့သို့ တစ်စတစ်စနှင့် လုံးပါးပါးသည်။

(စကားပုံ)

## တံငါကိုပိုက်ထိုးသင်၊ မုဆိုးကိုသားထိုးသင်

ပိုက်ကွန်ဖြင့် အသက်မွေးသည့်တံငါကို ပိုက်ထိုးနည်း၊ သားကောင်သတ်နေကျမုဆိုးကို သားကောင်သတ်နည်းသင်ပြသကဲ့သို့ အရေးအရာတစ်ခု၌ ကျွမ်းကျင်ပြီးသူအား လူသိလူတတ်လုပ်၍ ဆရာလုပ်သည်။

(စကားပုံ)

## ကျားရဲလည်း သေ၊ တောလည်း ကျေ။

ကျားရဲရန်ကို ရှင်းလင်းရာတွင် ကျားရဲလည်း သေ၊ တောအကြောင်းလည်း နှံ့စပ်ကျေညက်သွားသကဲ့သို့ အလုပ်တစ်ခု ပြုလုပ်ရာတွင် ရည်မှန်းချက် အောင်မြင်သည့်အပြင် အခြား အကျိုးကျေးဇူး ကိုလည်း ရရှိသည်။

(စကားပုံ)

## ခွေးလျှေးခုန်၍ ဖုန်မထ

ခွေးလျှေးခုန်၍ ဖုန်မထသကဲ့သို့ မမှုလောက်သော သူ၏ လုပ်ဆောင်ချက်သည် အရာမရောက်ချေ။

(စကားပုံ)

## တစ်ကောင်ရ ငါ့သမီးရှင်ထွေး။

ငါးတစ်ကောင် ရတိုင်းရတိုင်း ငါ့သမီး ရှင်ထွေးဖို့ဟု ရည်စူးသကဲ့သို့ အခွင့်အလမ်းပေါ်လာသည့်အခါ တိုင်း အခါတိုင်းတွင် တစ်ယောက်တည်းဖို့သာ ရည်စူးသည်။

(စကားပုံ)

## ထန်းသီးကြွေခိုက် ကျီးပျံခိုက်

ကျီးပျံလာစဉ် ထန်းသီးကြွေကျသည်နှင့် မတော်တဆ တိုက်ဆိုင်ထိမှန်၍ ကျီးသေဆုံးရသကဲ့သို့ ဖြစ်ရပ် တစ်ခုနှင့်တစ်ခု တိုက်တိုက်ဆိုင်ဆိုင် ဆုံစည်း ဖြစ်ပွားသည်။

(စကားပုံ)

## ကျားသနားမှ နွားချမ်းသာ

ကျားရှေ့ရောက်သော နွားသည် ကျားသနားမှသာ အသက်ချမ်းသာခွင့် ရမည်ဖြစ်သကဲ့သို့ အလွန် ရက်စက်ကြမ်းကြုတ်သူရှေ့မှောက် ရောက်သောသူ သည် ထိုသူ သနားညှာတာမှသာ ချမ်းသာခွင့် ရရှိ နိုင်မည်။

(စကားပုံ)

## ကြပ်ပူထိုးလေ ရောင်လေ

အရောင်လျော့စေရန် ကြပ်ပူထိုးပေးရာတွင် အရောင်မလျော့ဘဲ ကြပ်ပူထိုးလေလေ ပို၍ ရောင်လေလေ ဖြစ်သကဲ့သို့ ကောင်းမွန်စေရန် ပြုပြင်ပေးရာတွင် ကောင်းမလာဘဲ ပြုပြင်လေလေ ပို၍ ဆိုးလေလေ ဖြစ်သည်။

(စကားပုံ)

## တစ်ဆိတ် တစ်အိတ်လုပ် (စကားပုံ)

တစ်ဆိတ်စာမျှကို တစ်အိတ်စာ ဖြစ်အောင် ချဲ့ထွင်ပြောဆိုသကဲ့သို့ မပြောပလောက်သည့် အရာကို ချဲ့ကား ပြောဆိုသည်။

## တစ်နေ့တစ်လံ ပုဂံဘယ်ရွေ့မလဲ

ပုဂံသို့ရည်မှန်း၍ ခရီးထွက်ခဲ့သူသည် တစ်နေ့တစ်လံမျှ သွားစေဦး နေ့စဉ်မှန်မှန်သွားက ပုဂံသို့ မုချရောက်မည်ဖြစ်သကဲ့သို့ လုပ်ငန်းတစ်ခုကို နည်းနည်းချင်းဖြစ်စေကာမူ မှန်မှန် အားထုတ်ဆောင်ရွက်သွားလျှင် တစ်ချိန်တွင် မုချပြီးမြောက်မည်သာ ဖြစ်သည်။

(စကားပုံ)

## ကြွက်သေတစ်ခု အရင်းပြု

ကြွက်သေတစ်ကောင်ကို အရင်းအနှီး ပြု၍ ချမ်းသာလာသကဲ့သို့ အနည်းငယ်မျှသော အရင်းအနှီးပင်ဖြစ်စေကာမူ လာဘ်မြင်တတ်ပြီး ကြိုးစားအားထုတ်လျှင် ကြီးပွား ချမ်းသာနိုင်သည်။

(စကားပုံ)

## ကွမ်းသီးကြိုက် တောင်ငူပို့ (စကားပုံ)

ကွမ်းသီးကြိုက်တတ်သူကို ကွမ်းသီးကောင်းထွက်သော တောင်ငူသို့ ပို့လိုက်သကဲ့သို့ စိတ်ကြိုက် အနေအထားဖြစ်အောင် ဖန်တီးပေးလိုက်သည်။

## ကျီးတစ်ကောင်အတွက် ကျီးအများပျက်

ကျီးတစ်ကောင်ကြောင့် ကျီးများပျက်စီးရသကဲ့သို့ တစ်ယောက် မကောင်းသောကြောင့် အများပျက်စီးဆုံးရှုံးရသည်။

(စကားပုံ)

## ကြောင်ရုပ်ဖြစ်စေ ကြွက်သေတာလိုရင်း

ကြောင်ရုပ်ပင် ဖြစ်စေကာမူ ကြွက်ငြိမ်ခြင်းသာ ပမာန ဖြစ်သကဲ့သို့ မည်သည်ကိုပင်သုံးသုံး ကိစ္စပြီးမြောက်ရေးသာ ပမာန ဖြစ်သည်။

(စကားပုံ)

## ကြွေတစ်လက်၊ ကြက်တစ်ခုန် (စကားပုံ)

ကြွေအန်ကစားသူ၊ ကြက်တိုက်သူတို့သည် အရှုံးပင်ပေါ်နေစေကာမူ ကြွေတစ်လက်ပစ်၊ ခွက်ကြက်တစ်ခါခုန်ဖြင့် အနိုင်ပေါ်နိုင်သကဲ့သို့ ချက်ကောင်းတစ်ချက်ကြုံလျှင် ချမ်းသာကြီးပွားနိုင်သည်။

## တစ်နေ့ရွှေ၊ တစ်နေ့ငွေ

တစ်နေ့တွင် ရွှေထည်များနှင့်၊ နောက်တစ်နေ့တွင်မူ ငွေထည်များနှင့် ပြောင်းလဲနေသကဲ့သို့ အခြေအနေသည် ကောင်းလိုက် မကောင်းလိုက် မတည်မငြိမ် ပြောင်းလဲနေသည်။

(စကားပုံ)

မြန်မာစကားပုံ

## ကြိုးချင်းထားကြိုးချင်းငြိ၊ အိုးချင်းထားအိုးချင်းထိ

ကြိုးများကို စုပုံထားပါက ကြိုးအချင်းချင်း ငြိတွယ်ရှုပ်ထွေးတတ်ပြီး အိုးများကို စုပုံထားပါက အိုးအချင်းချင်း ထိမိခိုက်မိရှိတတ်သည်၊ ထို့အတူ ယောကျ်ားနှင့်မိန်းမသည် နီးစပ်လျှင် ငြိစွန်းသည်။

(စကားပုံ)

## သခွားစား၍ ဖရုံပြသည်။

သခွားသီးကို စားပါလျက် သခွားသီးစားနေပါသလော ဟု မေးသောအခါ ဖရုံသီးကို ပြသကဲ့သို့ မိမိပြုလုပ်ခဲ့သော အမှုကိစ္စကို မပြုလုပ်လေဟန် လိမ်လည်ပြောဆိုသည်။

(စကားပုံ)

## တပည့်ရှာ ဆရာတွေ့ (စကားပုံ)

တပည့်ခံမည့်သူကိုရှာရာတွင် မိမိကို ဆရာလုပ်မည့်သူသာ တွေ့ရသကဲ့သို့ မိမိခိုင်းရမည့်သူကိုရှာရာတွင် ဩဇာပေးမည့်သူကိုသာ တွေ့ရသည်။

# ကုသိုလ်ဖန် ဗိမာန်အသင့် ဘုံအသင့်

ကုသိုလ်ကံ ဖန်တီးပေးသူအဖို့ ဘုံဗိမာန်အသင့် ဖြစ်နေသကဲ့သို့ ကံကောင်းသူအဖို့ အရာရာမှာ အဆင်သင့် ဖြစ်နေတတ်သည်။

(စကားပုံ)

## တောင်ငူကလည်း တောင်ငူ၊ မောင်းထောင်းကလည်း မောင်းထောင်း။

တောင်ငူကလည်း တောင်ငူ၊ မောင်းထောင်းကလည်း မောင်းထောင်း ဆိုသကဲ့သို့ နှစ်ဖက်စလုံး သူ့နည်းနှင့်သူ လွန်ကြသည်ချည်း ဖြစ်သည်။

(စကားပုံ)

## ကျားရှေ့ မျောက်လျက် လဲ (စကားပုံ)

ကျားရှေ့ မျောက်လျက်လဲသကဲ့သို့ မိမိအား အန္တရယ်ပြုမည့်သူ ရှေ့တွင် ပြောမှား၊ ပြုမှားသည်။

## ကြက်တူရွေးက တော်တော်၊ မယ်ဘော်က ကဲ

ကြက်တူရွေးသည် တော်ရုံတန်ရုံမျှသာ စကားပြော တတ်သော်လည်းမယ်ဘော်က သူ့ကြက်တူရွေး စကား တတ်ကြောင်း အမွှမ်းတင်ရာတွင် လွန်ကဲသကဲ့သို့ တစ်စုံတစ်ယောက်၏ ဂုဏ်အရည်အချင်းမှာ တော်ရုံ မျှသာဖြစ်သော်လည်း သူ့အားလိုလားသူ၏ အမွှမ်း တင်မှုမှာ လွန်ကဲလှသည်။

မြန်မာစကားပုံ

**တောင်ဝှေးလဲတော့ ဖိုးသူတော် ထူနိုင်သည်။**
**ဖိုးသူတော်လဲတော့ တောင်းဝှေး မထူနိုင်။**

တောင်ဝှေးလဲသော် ဖိုးသူတော်က ထူပေးနိုင်၍ ဖိုးသူတော်လဲသော် တောင်ဝှေးက ထူပေးခြင်း မပြုနိုင်သကဲ့သို့ မှီခိုသူ ဒုက္ခဖြစ်သောအခါ မှီခိုအာထားရာ ပုဂ္ဂိုလ်က အကူအညီ ပေးနိုင်သော်လည်း မှီခို အားထားရာ ပုဂ္ဂိုလ် ဒုက္ခဖြစ်သည့်အခါ မှီခိုသူက အကူအညီ ပေးစွမ်းနိုင် မရှိချေ။

(စကားပုံ)

## တပည့်လိမ္မာ၊ ဆရာအာပတ် လွတ်။

ဆရာဘုန်းတော်ကြီး အာပတ်သင့်နိုင်သောကိစ္စတွင် တပည့်ဖြစ်သူက ပါးနပ်လိမ္မာစွာ ဆောင်ရွက်ပေးသဖြင့် ဆရာဘုန်းတော်ကြီးအဖို့ အာပတ်လွတ်သကဲ့သို့ တပည့်သားမြေးက လိမ္မာပါးနပ်စွာ ဆောင်ရွက်သဖြင့် လူကြီးအဖို့ အပြစ်လွတ်သည်။

(စကားပုံ)

## တစ်လုတ်ကျွေးဖူး သူ့ကျေးဇူး

တစ်လုတ်စာမျှ ကျွေးမွေးခဲ့ဖူးလျှင်ပင် ထိုသူ၏ ကျေးဇူးမကင်းတော့သကဲ့သို့ အနည်းငယ်မျှပင်ဖြစ်စေ ကူညီစောင့်ရှောက်ဖူးလျှင်ပင် ထိုသူ၏ ကျေးဇူး မကင်းသည်သာ ဖြစ်သည်။

(စကားပုံ)

## ကျွန်ဝယ်ရာ အဆစ်ပါ

ကျွန်ဝယ်ရာတွင် ဝယ်သည့်ကျွန်အပြင် နောက်ထပ် လူပိုအဆစ်ပါသွားသကဲ့သို့ တစ်ဦးတစ်ယောက်၏ ကိစ္စတွင် တိုက်ရိုက် မပတ်သက်ဘဲနှင့် ပတ်သက်သူကို အကြောင်းပြု၍ ပါဝင်ဆောင်ရွက်ပေးရသည်။

(စကားပုံ)

## ကြိုးကြာဆို ဘာငှက်လဲမေး

ကြိုးကြာငှက်ဖြစ်ပါသည်ဟု ပြောပြီပါလျက် ဘာငှက်လဲဟု မေးသကဲ့သို့ အကြောင်းကိစ္စကို ရှင်းလင်းစွာ ပြောပြီးပါလျက် မလိုအပ်ဘဲ ထပ်မေးသည်။

(စကားပုံ)

## တပ်ပျက် ဗိုလ်ခန့်

တပ်ပျက်ကို အုပ်ချုပ်ကွပ်ကဲရန် ဗိုလ်ခန့်လိုက်သကဲ့သို့ ဖရိုဖရဲ ယိုယွင်းပျက်စီးနေသော အဖွဲ့အစည်းကို ဦးဆောင်ကွပ်ကဲရန် အကြီးအအုပ် ခန့်သည်။

တပ်ပျက် ဗိုလ်လုပ်- ဟုလည်း အသုံးရှိသည်။

(စကားပုံ)

## တစ်သက်လုံးဖုံးသမျှ ကုန်းခါမှပေါ်

လုံခြုံအောင် တစ်သက်လုံးထားခဲ့သော ကိုယ်အင်္ဂါ အစိတ်အပိုင်းသည် ကုန်းလိုက်သောအခါမှ ပေါ်သွားသကဲ့သို့ တစ်သက်လုံး လျှို့ဝှက်ထားသော အကြောင်းအရာသည် အပြောအဆို အပြုအမူ မှားယွင်းမှုကြောင့် ပေါ်သွားသည်။

(စကားပုံ)

## ကျည်ပွေ့ အတက်ပေါက်။

ကျည်ပွေ့မှ အတက်ပေါက်သည် ဆိုသကဲ့သို့ မည်သို့မျှ အောင်မြင်မှုမရနိုင်ဟု အထင်ခံရသူသည် မယုံနိုင်လောက်အောင် ဖြစ်ထွန်းသွားသည်။

(စကားပုံ)

# ကိုယ့်အတတ် ကိုယ်စူး။ (စကားပုံ)

ကိုယ်ပြုစားလိုက်သော အတတ်သည် ကိုယ့်ကို ပြန်စူးသကဲ့သို့ မိမိလက်ချက်ဖြင့် မိမိပင် ဒုက္ခ ဖြစ်သည်။

"ကိုယ့်အတတ်နှင့် ကိုယ့်ကိုယ်စူး နုတ်လို့မရနိုင်ဘူး ဟူသကဲ့သို့ မိမိအပေါ်ပြန်ပြီး ဘေးဒဏ်သင့်တတ် သည်ကို သတိချပ်ကြရမယ်။"

## ခုမှပေါ်တဲ့ ရွှေကြာပင်

ယခု ပေါ်ပေါက်လာပါလျက် အလျင်ပေါ်နှင့်သော ကြာပင်များထက် အဦးအမြတ် ထားခြင်းခံရသော ကြာပင်ကဲ့သို့ နောက်မှ ပေါ်လာပါလျက် ဦးစားပေး ခြင်းခံရသည်။

(စကားပုံ)

## ကြက်ကောင်း ကြိုးမကွာ (စကားပုံ)

တိုက်ကြက်ကောင်းကို ကြိုးနှင့်အမြဲမကွာ ချည်နှောင်စောင့်ရှောက်ထားရသကဲ့သို့ အလားအလာကောင်းသူကို ဂရုစိုက်၍ စည်းကမ်းနှင့် မကင်းမကွာ ထိန်းကွပ်ကြပ်မတ်ထားရသည်။

မြန်မာစကားပုံ

## ကျော်တော့ လှေသူကြီး၊
## ညားတော့ လှေထိုးသား။

လှေသူကြီးနှင့် ယူတော့မည်ဟု ကျော်ကြားနေသော်လည်း လှေထိုးသားနှင့်သာ ညားသွားသကဲ့သို့ အလားအလာတစ်ခုအတွက် သတင်းပြေးသူကတစ်ဦး တကယ်ဖြစ်သူက တစ်ဦး ဖြစ်သည်။

(စကားပုံ)

## ကြာကြာ ဝါးမည့်သွား အရိုး ကြည့်ရှောင်

မိမိ၏သွား ကြာရှည်စွာဝါးနိုင်ရန် အရိုးကို ဂရုတစိုက် ရှောင်ကြဉ်ရသကဲ့သို့ မိမိဘဝ ကြာရှည်စွာ ရပ်တည်နိုင်ရန် ထိခိုက်နစ်နာစေမည့် အမှုမှန်သမျှကို ဂရုတစိုက် ရှောင်ကြဉ်ရမည်။

(စကားပုံ)

ကြောင်တစ်သက် ကြက်တစ်မြို့ (စကားပုံ)

---

ကြောင်တစ်ကောင်ကြောင့် ကြက်တစ်မြု့လုံး ပျက်စီးရသကဲ့သို့ အနိုင်အထက်ပြုသူတစ်ဦးကြောင့် အားမဲ့သူအများ ပျက်စီး ဆုံးရှုံးသည်။

(ကြောင်တစ်သက် ကြွက်တစ်မြု့ -ဟုလည်းရှိ)

မြန်မာစကားပုံ

# ကြောက်လျှင် လာဘ်လွဲ၊ ရဲလျှင်မင်းဖြစ်။ (စကားပုံ)

ကြောက်လျှင် လာဘ်လွဲ၊ ရဲလျှင် မင်းဖြစ် ဆိုသကဲ့သို့ ကြောက်ရွံ့တွန့်ဆုတ်နေလျှင် ရသင့်ရထိုက်သော အကျိုးကျေးဇူးကို မရရှိဘဲ မကြောက်မရွံ့ စွန့်စားအားထုတ်လျှင် အကျိုးထူးကို ရရှိခံစားနိုင်သည်။
(ကြောက်လွဲ ရဲမင်းဖြစ် ဟူ၍လည်း အသုံးရှိသည်)

"တွေးပြီးကြောက်နေမယ်ဆိုရင် ဒီမြေကြီးပေါ် ခြေထောက်ပြီး နေဝံ့စရာတောင်မရှိဘူး။ ကြောက်ရင် လာဘ်လွဲ၊ ရဲလျှင် မင်းဖြစ် ဆိုတဲ့စကား ရှိတယ်မဟုတ်လား"

## တောစကား တောပျောက် (စကားပုံ)

တောမှာပြောသောစကားကို တောမှာပင်ပျောက်ပျက် စေဆိုဘိသကဲ့သို့ အချင်းချင်းပြောသော မသင့်လျော် သည့် စကားကို ပြောသည့်နေရာမှာပင် ပျောက်ပျက် စေရသည်။

## တစ်မိုးလုံး ဖျောက်ဆိပ်

အမည်မသိသော ကြွယ်အားလုံးကို ဖျောက်ဆိပ်ဟု လွယ်လွယ်ခေါ်လိုက်ခြင်းဖြင့် မိုးကောင်းကင်တစ်ခုလုံး ဖျောက်ဆိပ်ကြွယ်ချည်း ဖြစ်နေသကဲ့သို့ နေရာတကာတိုင်းတွင် သူချည်းသာ တွင်ကျယ်နေသည်။

(စကားပုံ)

## ကိုယ့်ထမင်းကိုယ်စား
## ကြီးတော်နွား အလကားကျောင်း

အဖိုးအခ မရဘဲ ကြီးတော်၏နွားကို ကိုယ့်စရိတ်နှင့်ကိုယ် ကျောင်းသကဲ့သို့ မိမိအလုပ်ကို လျစ်လျူရှု၍ မိမိအတွက် အကျိုးမရှိသော သူတစ်ပါးအလုပ်ကို လုပ်ပေးသည်။

(စကားပုံ)

## ကံမရှိ ညာဏ်ရှိတိုင်းမွဲ

အဆင်မပြေနေသူအဖို့ ကြံစည်လုပ်ဆောင်တိုင်း မအောင်မမြင် ဆုံးရှုံးမှုနှင့်သာ တွေ့ကြုံရသည်။

ကံမရှိ ညာဏ်ချိတိုင်းမွဲ-ဟုလည်းအသုံးရှိသည်။

(စကားပုံ)

## ကျားချင်းကိုက်ရာ သမင်လမ်းကူးမှား

ကျားနှစ်ကောင် ကိုက်နေသော နေရာသို့ သမင်သည် လမ်းမှား၍ ရောက်သွားမိသဖြင့် ဒုက္ခတွေ့ရသကဲ့သို့ မိမိနှင့်မဆိုင်သော အခြားပုဂ္ဂိုလ် နှစ်ဦး၏ ပဋိပက္ခတွင် ဒုက္ခရောက်ရသည်။

(စကားပုံ)

# ၁၃။

---

## ကံယုံ၍ ဆူးပုံမနင်းရာ - နှင့် အတူတူ။

"ကာလဒေသ၊ ပုဂ္ဂလကို၊ နှိုင်းဆအပ်တုံ၊
ကံကိုယုံ၍၊ မီးပုံအတွင်း၊မဆင်းထိုက်စွာ။"

၁၂၆၆၊ မဃ ၂၄၅

## ကြောင်ခံတွင်းပျက်နှင့် ဆက်ရက်တောင်ပံကျိုး

ခံတွင်းပျက်နေသော ကြောင်သည် အလွယ်တကူ ဖမ်းယူနိုင်မည့် တောင်ပံကျိုးဆက်ရက်ကို အခန့်သင့် တွေ့သကဲ့သို့ အိမ်ထောင်ရေးတွင် လိုအင်ဆန္ဒမပြည့် ခိုက် မိမိဆန္ဒကို အလွယ်တကူ ဖြည့်မည့်သူနှင့် အခန့်သင့် တွေ့သည်။

(စကားပုံ)

# ကိုယ့်ငါးချဉ် ကိုယ်ချဉ် (စကားပုံ)

သူတစ်ပါး၏ငါးချဉ်သည် မချဉ်၊ မိမိငါးချဉ်သာ ချဉ်သည်ဟု ထုတ်ဖော်ပြောဆိုသကဲ့သို့ မိမိနှင့်စပ်ဆိုင်သည့်အရာကိုမှ ကောင်းသည်ဟု မှတ်ယူပြောဆိုသည်။

## ကျွားရဲလည်း သေ၊ တောလည်း ကြေ

ကျွားရဲရန်ကိုရှင်းလင်းရာတွင် ကျွားရဲလည်း သေ၊ တောလည်း ဖွတ်ဖွတ်ကြေအောင် ပျက်စီးသွားသကဲ့သို့ အလုပ်တစ်ခု ပြုလုပ်ရာတွင် ရည်မှန်းချက် အောင်မြင်သော်လည်း ဆုံးရှုံးမှု ကြီးမားသည်။

(စကားပုံ)

## ကျားလိုက်မှ တုတ်ခုတ်

ကျားလိုက်သောအခါမှ ခုခံရန် တုတ်ခုတ်သကဲ့သို့ ကိစ္စအရေးကြီးလာမှ ဖြေရှင်းရန် အလောသုံးဆယ် ပြင်ဆင်သည်။

(စကားပုံ)

# ကျွန်းကိုင်းမှီ၊ ကိုင်းကျွန်းမှီ (စကားပုံ)

ကိုင်းပင်များ ပေါက်ရောက်နေသဖြင့်လည်း သောင်ကျွန်းသည် ရေတိုက်စားမှုကို ခံနိုင်ပြီး ရပ်တည်နေနိုင်သည်။ သောင်ကျွန်းတည်ရှိနေသဖြင့်လည်း ကိုင်းပင်များပေါက်ရောက်ရှင်သန် ရပ်တည်နိုင်သည်။ ထို့အတူပင် တစ်ဦးနှင့်တစ်ဦးသည်လည်း အပြန်အလှန်အကျိုးပြု၍ အမှီသဟဲပြုကာ ရပ်တည်ကြရသည်။

## ကိုယ့်ကို ကိုယ်ဖော် မသူတော် ခုနှစ်ပါး

တောက်တဲ့၊ ဇီးကွက်၊ ရွှေပြည်စိုး၊ ယောက်ဖခွေးခေါ်၊ ဥသြ၊ တစ်တီးတူး၊ ဘုတ် ဟူသော တိရစ္ဆာန် ခုနစ်ကောင်သည် မိမိအမည်ကို ထုတ်ဖော်သဖြင့် မသူတော်စာရင်းဝင်များ ဖြစ်ကြသကဲ့သို့ မိမိဂုဏ်ကို မိမိကိုယ်တိုင် ဖွင့်ဟကြွားဝါသူသည်လည်း မသူတော်စာရင်းဝင်ပင် ဖြစ်သည်။

(စကားပုံ)

## ကိုယ့်အထုပ် ကိုယ်ဖြေပြ

မိမိ၏ အစုတ်ထုပ်ကို လူပုံအလယ်တွင် ဖြေပြသကဲ့သို့ မိမိနှင့် ပက်သက်သော အပြစ်အနာအဆာများကို မိမိပင် ဖွင့်ဖော်ပြသည်။

(စကားပုံ)

## ကိုယ့်ပေါင် ကိုယ်လှန်ထောင်း

ကိုယ်နာကျင်မည်ကို အမှုမထားမိဘဲ ကိုယ့်ပေါင် ကိုယ်လှန်ထောင်းသကဲ့သို့ မိမိ နစ်နာရမည်ကို မတွက်မိဘဲ မိမိဘက်မှ အားနည်းချက်ကို ဖွင့်ဟ ပြောဆိုသည်။

(စကားပုံ)

## ကျီး ဘုတ်ရှိသေ၊ ဘုတ် ကျီးရှိသေ(စကားပုံ)

ကျီးနှင့်ဘုတ်တို့သည် တစ်ကောင်နှင့်တစ်ကောင် လေးစားရှိသေကြသကဲ့သို့ မိမိက သူတစ်ပါးကို ရှိသေလေးစားခြင်းဖြင့် သူတစ်ပါးကလည်း မိမိကို ရှိသေလေးစားသည်။

မြန်မာစကားပုံ

## ကိုယ်ထင် ခုတင်ရွှေနန်း (စကားပုံ)

မြတ်နိုးလျှင် မိမိ အသုံးပြုသော ခုတင်ကိုပင် ရွှေနန်းတော်ဟု ထင်မှတ်သကဲ့သို့ မိမိမြတ်နိုးသောအရာဖြစ်လျှင် တန်ဖိုးမရှိစေကာမူ အလွန်တန်ဖိုးရှိသောအရာဟု စိတ်တွင် ထင်မှတ်သည်။

## ကြောင်အို ကြွက် မလေး(စကားပုံ)

ကြောင်အိုကို ကြွက်များ မလေးမခန့်သကဲ့သို့ အသက်အရွယ် ကြီးရင့်သောမိဘဆရာသမားတို့ကို သားသမီးတပည့်တို့က မခန့်ညားကြချေ။

## ကျောက သားလည်း သား၊
## ရင်က သားလည်း သား။

ကိတ္တိမသား၊ သားရင်းဟူ၍ မခွဲခြားဘဲ မျှတစွာ ဆက်ဆံသကဲ့သို့ လက်အောက်ငယ်သား တို့ကို စိမ်းသည်၊ ကျက်သည် မခွဲခြားဘဲ မျှတစွာ ဆက်ဆံသည်။

(စကားပုံ)

## ကျွဲကူး ရေပါ (စကားပုံ)

ကျွဲရေကူးလျှင် ကျွဲနောက်မှ ရေအလျဉ်လိုက်ပါသကဲ့သို့ ကိစ္စတစ်ခု ဆောင်ရွက်ရာ၌ထိုကိစ္စနှင့် အကျုံးဝင်ရာကိစ္စများပါ တစ်ပါတည်း ပြီးစီးသွားသည်။

# ကျွဲနှစ်ကောင်ခတ်တဲ့ကြား မြေစာပင် မခံနိုင်

ကျွဲနှစ်ကောင် ခတ်ရာတွင် ကြားက မြေစာပင်များ ပျက်စီးရသကဲ့သို့ အင်အားကြီးသူနှစ်ဦး ခိုက်ရန်ဖြစ်ပွားရာတွင် ကြားက အင်အားငယ်သူများ ဒုက္ခရောက်ရသည်။

"အဘသမီးရဲ့အဖြစ်ဟာ ဆိုးလှတယ်။ ကျွဲနှစ်ကောင်ခတ်တဲ့ကြားက မြေစာပင်လို အဘတို့ရာဇဝင်အဆက်ဆက်က မုန်းတီးခဲ့တဲ့ဇာတ်လမ်းမှာ အပြစ်မဲ့တဲ့ အဘသမီးဟာ ဓားစာခံဖြစ်ရတယ်။"

မြန်မာစကားပုံ

## ကံမခိုင် သံတိုင်အိမ်ဆောက်လည်း ကံမှောက်လျှင်ကျိုး

ကုသိုလ်ကံဇာတာ ညံ့နေသည့်အချိန် ဖြစ်ပါက သံတိုင်ကို တိုင်ထူ၍ အိမ်ဆောက်စေကာမူ သံတိုင် ကျိုးသည့်အဖြစ် ကြုံရသကဲ့သို့ မူလအခြေခံ ညံ့ဖျင်းလျှင် လုပ်သမျှ အရာမထင် ဖြစ်တတ်သည်။

(စကားပုံ)

## ကုန်းပေါ်ရောက်မှ ရေမမွှန်းစေနှင့်

ရေနစ်သူကို ဆယ်ယူ၍ ကုန်းပေါ်ရောက်ပြီးမှ ဆက်လက်မပြုစုသဖြင့် ရေမွှန်း၍ တိမ်းပါးခြင်း မဖြစ်စေသကဲ့သို့ ခက်ခဲစွာ ဆောင်ရွက်၍ အောင်မြင်ပြီးမြောက်သလောက်ရှိမှ လျော့ရဲပေါ့ဆမှုကြောင့် ဆုံးရှုံးပျက်စီးသွားရခြင်းမျိုး မဖြစ်သင့်။

(စကားပုံ)

## ခြိမ်းလွန်းသည့်မိုး မရွာ (စကားပုံ)

ရွာတော့မယောင် ခြိမ်းလွန်းသောမိုးသည် မရွာသကဲ့သို့ တကယ်လုပ်တော့မယောင် ကြီးကြီးကျယ်ကျယ် ပြောလွန်းသောသူသည် လက်တွေ့တွင် တကယ်မလုပ်ချေ။

# ကြောင်မရှိ ကြွက်ထ (စကားပုံ)

ကြောင်မရှိခိုက် ကြွက်တို့ ထကြွမြူးထူး သကဲ့သို့ ကြောက်ရွံ့ရမည့်သူမရှိခိုက် ထင်သလို ပြုမူနေထိုင်သည်။

(ကြောင်မရှိ ကြွက်မြူး-ဟူ၍လည်း အသုံးရှိသည်။)

## ကောင်းကင်တက် လက်ဝှေ့သတ်

ကောင်းကင်ကို လက်ဝှေ့သတ်သည် ဆိုသကဲ့သို့ ထိရောက်မှုမရှိဘဲ အကျိုးမဲ့ ပြုလုပ်သည်။

(စကားပုံ)

# ကိုယ့်ဝမ်းနာ ကိုယ်သာသိ။

မိမိ၏ ဝမ်းနာဝေဒနာ မည်မျှ ပြင်းပြသည်ကို မိမိသာ သိနိုင်သကဲ့သို့ အခက်အခဲ မည်မျှရှိသည်ကို အခြားသူများထက် ကာယကံရှင်ကသာ ပိုမို သိရှိနိုင်သည်။

(စကားပုံ)

## ကြွက်နားရွက် ဝက်တပ်

ကြွက်၏နားရွက်ကို ဝက်တွင် တပ်ဆင်သကဲ့သို့ အမြင်မတော်လောက်အောင် အရွယ်ပမာဏ မတူမမျှ ဆင်ယင်မွမ်းမံသည်။

(စကားပုံ)

## ကချင်လျက် လက်ကျိုး (စကားပုံ)

ကချင်သူသည် ကခါနီးမှ လက်ကျိုးသဖြင့် မကလိုက်ရဖြစ်သကဲ့သို့ မိမိအစွမ်းအစ ပြမည်ဟု အားခဲထားသူသည် အစွမ်းအစကို ပြရခါနီးမှ အကြောင်း မညီညွတ်သောကြောင့် မပြလိုက်ရ ဖြစ်သည်။

## ကိုယ့်လှေကိုယ်ထိုး ပဲခူးရောက်ရောက်။

ကိုယ့်လှေကို ကိုယ်တိုင် ထိုးဝါးထိုး၍ ခရီးသွားရာတွင် ပဲခူးသို့ပင် ရောက်ရောက်၊ မည်သည့်နေရာသို့ပင်ရောက်ရောက် မမှုသကဲ့သို့ မိမိလိုရာကို ဖြစ်ချင်ရာဖြစ် တစ်ဇွတ်ထိုး ပြုလုပ်သည်။

(စကားပုံ)

မြန်မာစကားပုံ

## ကျီးကန်းသူကောင်းမြှောက်၊ ချေးခြောက်ကောက်စား

ကျီးကန်းသည် သူကောင်းအဖြစ် ချီးမြှင့်မြှောက်စား ခြင်း ခံရစေကာမူ ပင်ကိုသဘောကို မစွန့်နိုင်ဘဲ မစင်ခြောက်ကို ကောက်စားသကဲ့သို့ စိတ်ထား အောက်တန်းကျ သူသည် ချီးမြှင့် မြှောက်စားခံရ စေကာမူ မိမိပင်ကိုသဘောကို မစွန့်လွှတ်နိုင်ဘဲ နိမ့်ကျသော အမူမျိုးကိုပြုလုပ်သည်။

(စကားပုံ)

# ကတ်မည့်ကတ် အပ်ဦးပဲ့ ထမ်း

အပ်ကလေးကိုယူဆောင်ရာတွင်ပင် ဦးကတစ်ယောက် ပဲ့ကတစ်ယောက်ထမ်း၍ ယူဆောင်သယ်ပိုးသကဲ့သို့ တစ်ယောက်နှင့် တစ်ယောက် တွက်ကတ်ကာ တစ်ယောက်တည်းဖြင့် ပြီးနိုင်သော အလုပ်ကို နှစ်ယောက် သုံးယောက်စသည် လုပ်ဆောင်ကြသည်။

(စကားပုံ)

မြန်မာစကားပုံ

## ကောက်သော် မစားလောက်၊
## ဖြောင့်သော် စားမနိုင်။

တံငါသည်သည် ကောက်သော ငါးမျှားချိတ်ဖြင့် တစ်နေကုန် ငါးမျှားသည့်တိုင် လှေတစ်စင်းစာ ငါး မရနိုင်၊ မုဆိုးသည် ဖြောင့်သော မြားဖြင့် သားကောင် ကို ပစ်ခတ်လျှင် တစ်နေ့တည်း လှေတစ်စင်းစာမက ရနိုင်သည်။ ထို့အတူ ကောက်ကျစ်သော နည်းလမ်း ဖြင့် အသက်မွေးသူသည် ဝဝလင်လင် မစားရ၊ ဖြောင့်မှန်သောနည်းဖြင့် အသက်မွေးပါက စားမကုန် အောင် ကြွယ်ဝသည်။

(စကားပုံ)

## သားကအဖျား မြေးကအရင်း

မြေးနှင့်သားတွင် သားသည် အရင်းအချာဖြစ်သည်။ သို့သော် အရင်းအချာဖြစ်သော သားက အဖျားဖြစ်၍ မြေးကအရင်း ဖြစ်နေသည်ဆိုသကဲ့သို့ အရင်းအချာကို အခွင့်အရေးမပေးဘဲ အဖျားအနားကို အခွင့်အရေး ပေးသည်။

(စကားပုံ)

# ကွန်လက်လေးသစ်နှင့် ငါးစင်းအုပ်၍ မမိနိုင်၊
# ကွန်လက်သည်းကွင်းနှင့် ငါးကြီးပစ်၍ မရနိုင်။

လက်လေးသစ်အကွက်ရှိသော ပိုက်ကျဲဖြင့် ငါးစင်းကဲ့သို့ ငါးငယ်ကို အုပ်၍မရနိုင်။ လက်သည်းကွင်းခန့် အကွက်ရှိသော ကွန်စိပ်ဖြင့် ငါးကြင်းကဲ့သို့ ငါးကြီးကို ဖမ်း၍ မိသည့်တိုင်အောင် မိမိရရ မဖမ်းနိုင်။ ထိုကဲ့သို့ပင် အသေးအဖွဲ ကိစ္စကို ရေးကြီးခွင်ကျယ် ဆောင်ရွက်လျှင် အဆင်မပြေနိုင်။ ကြီးကျယ်သော ကိစ္စကို ထိရောက်စွာ မဆောင်ရွက်လျှင် မအောင်မြင်နိုင်။

## ကျော့ချမှ ဓားပြမှန်းသိ။

မိမိကျောကိုရိုက်နှက်ပြီး ပစ္စည်းကို တောင်းခါမှ ဓားပြမှန်းသိသကဲ့သို့ မိမိကို အကျိုးယုတ်အောင် လုပ်ခါမှ ထိုသူကို လူဆိုးမှန်း သိသည်။

(စကားပုံ)

# ကံကောင်းတဲ့ကျား၊ သွားရင်းသမင်တွေ့။

ကံကောင်းသော ကျားသည် သွားရင်းလာရင်း မမျှော်လင့်ဘဲ သမင်နှင့် ပက်ပင်းတိုး၍ သမင်သားစားရသကဲ့သို့ ကံကောင်းသူသည် မမျှော်လင့်ဘဲ အခွင့်ကောင်းနှင့် ကြုံတွေ့သည်။

ကံကောင်းတဲ့ကျား၊ သားကောင်နှင့် ရင်ဆိုင်တွေ့ ဟုလည်းအသုံးရှိသည်။

(စကားပုံ)

## ကိုယ်ကောင်း ခေါင်းဘယ်မရွှေ့။

ကိုယ်ခန္ဓာကောင်းနေလျှင် ဦးခေါင်းသည် အခြေ-အနေမပျက် ရပ်တည်နိုင်သကဲ့သို့ အခြေခံ စေတနာ မှန်ကန်လျှင် အခြေအနေမပျက် ရပ်တည်နိုင်သည်။

(စကားပုံ)

## တစ်လှေတည်းစီး တစ်ခရီးတည်းသွား

လှေတစ်စင်းကို အတူစီး၍ ခရီးတစ်ခုကို အတူသွားလာကြသူများ ဖြစ်သကဲ့သို့ ဆိုးတူကောင်းဖက် ဘဝတူများဖြစ်သည်။

(စကားပုံ)

## ကျားချင်းကိုက်ရာ သမင်ကူမှားသည်။

ကျားချင်းကိုက်ရာတွင် သမင်က ဝင်ရောက် ကူမိမှားသည် ဆိုသကဲ့သို့ အင်အားကြီးသော မိမိရန်သူအချင်းချင်း ပဋိပက္ခဖြစ်ရာတွင် ဝင်ရောက် ကူမိမှားသည်။

(စကားပုံ)

# ကြက်မတွန်လို့ မိုးမလင်း

ကြက်မသည် သဘာဝအလျောက် တွန်လေ့တွန်ထ မရှိသဖြင့် ကြက်ဖကဲ့သို့ အချိန်မှန်မှန် တွန်၍ မိုးလင်းချိန်ကို ညွှန်ပြခြင်း မပြုနိုင်သကဲ့သို့ မိန်းမသားတို့သည် သဘာဝအလျောက် အချို့ကိစ္စများ၌ ယောကျ်ားကဲ့သို့ အောင်မြင်အောင် မစွမ်းဆောင်နိုင်ချေ။

(စကားပုံ)

## သေချင်တဲ့ကျား တောပြောင်း (စကားပုံ)

သေဘေးနှင့်ကြုံမည့်ကျားသည် နေရင်းတောကို စွန့်ခွာ၍ အန္တရယ်ရှိသည့်တောသို့ ပြောင်းမိသကဲ့သို့ ဒုက္ခဖြစ်ဖို့ကြုံလာသူသည် မိမိမူလနေရာ၊ အလုပ်အကိုင်ကို စွန့်ခွာ၍ အခြားနေရာ အလုပ်အကိုင်သို့ ပြောင်းရွှေ့သည်။

"သေချင်တဲ့ကျားတောပြောင်းဆိုသလို မဖြစ်အောင် သတိရှိရင်တော့ ကောင်းတာပဲ။"

## ကံဆိုးမသွားရာ မိုးလိုက်လို့ရွာ

ကံဆိုးမသွားလေရာ အရပ်တိုင်း မိုးလိုက်လို့ရွာ ဆို-
သကဲ့သို့ ကံဆိုးသူအား ဒုက္ခမျိုးစုံက ထပ်ကြပ်မကွာ
လိုက်လံ ဒုက္ခပေးသည်။

(စကားပုံ)

## ကိုယ့်မြင်း ကိုယ်စိုင်း စစ်ကိုင်းရောက်ရောက်

ကိုယ့်မြင်းနှင့် ကိုယ်စိုင်းရာတွင် စစ်ကိုင်းသို့ပင် ရောက်ရောက်၊ မည်သည့်နေရာသို့ပင်ရောက်ရောက် မမှုသကဲ့သို့ မိမိလိုရာကို ဖြစ်ချင်ရာဖြစ် တစ်ဇွတ်ထိုး ပြုလုပ်သည်။

(စကားပုံ)

# ကြောင်သူတော်ဆို ယိုတော့ကြွက်မွေး (စကားပုံ)

သူတော်ကောင်းကြောင်ဟု အမည်ခံနေသော်လည်း
သူ၏မစင်တွင်မှ ကြွက်မွေးများတွေ့ရသကဲ့သို့
သူတော်ကောင်းဟု အမည်ခံနေသော်လည်း လုပ်ရပ်
များ၌ မရိုးသားသော လက္ခဏာများ တစ်စွန်းတစ်စ
တွေ့ရသည်။

"အသက်ရင့် ဝါကြီးပြီး ပုတီးကို ကိုင်ကာ ဘုရားသံ၊ တရားသံ
ပါပါနှင့် ကြောင်သူတော်ဟန်ဖန်တီးပြီး ကြွက်ချေးယိုသူ
အဘိုးကြီးများလည်း ရှိတတ်လှသဖြင့်. . . ။"

## ကိုယ်တင်သည့်စစ်ကဲ ကိုယ်ချ၍မရ

မိမိ တင်မြှောက်ခဲ့သည့် စစ်ကဲကို ရာထူးပြန်ချ၍ မရသကဲ့သို့ မိမိက မြှောက်စား ကျေးဇူးပြုထားသူကို မိမိကိုယ်တိုင် ပြောဆိုဆုံးမ၍ မရနိုင်ဖြစ်သည်။

(စကားပုံ)

## ကျောက်ကြီး ငါးခို၊ မီးကြီး ငြမ်းခို။

မီးရှူးဒုံးပျံကြီး ကောင်းကင်သို့ တက်နိုင်ရန် ခိုင်ခံ့သော ငြမ်းကို အားပြုမှီခိုရသကဲ့သို့ ငါးများသည် ကြီးမားသော ကျောက်ဆောင်ကို သဘာဝအလျောက် မှီခိုကြသကဲ့သို့ ခိုင်ခံ့ကြီးမားသော အမှီအခိုကို သူသူငါငါ မှီခိုကြရသည်။

(စကားပုံ)

## ကြောက်ပါတယ်ဆို ကြောင်နှင့်တို့

ကြောက်ပါသည်ဆိုမှ ကြောင်နှင့် တို့သကဲ့သို့ ကြောက်တတ်သူကို ပိုမို ချောက်ချားအောင် ခြိမ်းခြောက် သည်။

(စကားပုံ)

## ကျူပင်ခုတ်၊ ကျူငုတ်မကျန်။

ကျူပင်များကို ခုတ်ထွင်ရာတွင် ကျူငုတ်ကျန်နေပါက နောက်ထပ် အသစ်ပေါက်နိုင်သဖြင့် ကျူငုတ်ပါမကျန် ခုတ်ထွင်ရှင်းလင်းရသကဲ့သို့ ရန်သူကို ချေမှုန်းရာတွင် ရန်ကြွင်းရန်ငုတ်ပါ မကျန်အောင် သုတ်သင်ဖယ်ရှားရသည်။

(စကားပုံ)

## ကောက်ညှင်းက မစေး၊ ဆန်ကြမ်းက စေး

စေးသင့်သော ကောက်ညှင်းက မစေးဘဲ မစေးသင့်သော ဆန်ကြမ်းက စေးနေသကဲ့သို့ နှစ်ဦးနှစ်ဖက်ရှိရာတွင် သဘာဝအလျောက် ရှက်ရ နာရမည့်ဘက်က ဘာမျှမဖြစ်ဘဲ မရှက်မနာရမည့်ဘက်က အဖြစ်သည်းသည်။

(စကားပုံ)

# ကြက်ကန်း ဆန်အိုးတိုး။ (စကားပုံ)

ကြက်ကန်းသည် စားရကံကြုံသဖြင့် မထင်
မှတ်ဘဲ ဆန်အိုးကို တန်းတန်းမတ်မတ်
ဝင်တိုးမိသကဲ့သို့ အစွမ်းအစ မရှိသူသည်
ကံစွပ်သဖြင့် မထင်မှတ်ဘဲ အပေါက်အလမ်း
တည့်သွားသည်။

‘သည်မိန်းမဟာ အစက ဘာအဖိုးတန်လဲ၊ ယခုတော့. .
ကြက်ကန်းဆန်အိုးတိုးသလို အကျိုးပေးလာတာပါ။”

## ကျားကြောက်လို့ ရှင်ကြီးကိုး၊
## ရှင်ကြီး ကျားထက်ဆိုး။

ကျားကို ကြောက်သဖြင့် တောစောင့်နတ်ကို ကိုးခါမှ နတ်က ကျားထက်ပင်ဆိုးသကဲ့သို့ တစ်ဦး၏ရန်က လွတ်မြောက်ရန် အခြားတစ်ဦးကို အားကိုးမိခါမှ မိမိအားကိုးသူက မိမိကို ဒုက္ခပိုရောက်အောင် ပြုလုပ်သည်။

(စကားပုံ)

ကျောပူမှ ဝမ်းအေးဆိုသကဲ့သို့ ဆင်းရဲပင်ပန်းခံ၍ လုပ်ကိုင်ရှာဖွေနိုင်ပါမှ စားဝတ်နေရေး ပြေလည်မှု ရှိသည်။

(စကားပုံ)

## ကျားလည်း ကြောက်ရ၊
## ကျားချေးလည်း ကြောက်ရ။

ကျားကိုသာ ကြောက်ရသည်မဟုတ်၊ ကျားချေးကိုပင် လျှင် ကြောက်ရသကဲ့သို့ မိမိအား နှိပ်စက်နိုင်သော အရှိန်အဝါရှိသူကိုသာ ကြောက်ရသည်မဟုတ်၊ အရှိန် အဝါကို မှီခိုပြီး အာဏာပြနေသော နောက်လိုက် အသိုင်းအဝိုင်းများကိုပါ ကြောက်ရသည်။

(စကားပုံ)

## ကျွန်းကိုင်းမှီ၊ ကိုင်းကျွန်းမှီ (စကားပုံ)

ကိုင်းပင်များ ပေါက်ရောက်နေသဖြင့်လည်း သောင်ကျွန်းသည် ရေတိုက်စားမှုကို ခံနိုင်ပြီး ရပ်တည်နေနိုင်သည်။ သောင်ကျွန်းတည်ရှိနေသဖြင့်လည်း ကိုင်းပင်များပေါက်ရောက်ရှင်သန် ရပ်တည်နိုင်သည်။ ထို့အတူပင် တစ်ဦးနှင့်တစ်ဦးသည်လည်း အပြန်အလှန်အကျိုးပြု၍ အမှီသဟဲပြုကာ ရပ်တည်ကြရသည်။

## ကိုယ့်ရှူး ကိုယ်ပတ်

ကိုယ့်ရှူးကိုယ်ပတ်ဆိုသကဲ့သို့ မိမိ၏ မကောင်းသော
အကြံကြောင့် မိမိပင် ဒုက္ခဖြစ်သည်။

သူတစ်ပါးမကောင်းကြံ၊ ကိုယ့်မှာ ဘေးဒဏ်ထိ -
ဆိုရိုးလည်းရှိ၏။

(စကားပုံ)

## ကောက်သင်းကောက်က အနံ့ကြီးကြိုက်

ကောက်သင်းကောက်သူဖြစ်လျက် အနံ့ကြီးကို လိုချင်သကဲ့သို့ မိမိ အခြေအနေနှင့် မမျှတသောအရာကို မျှော်မှန်းသည်။

(စကားပုံ)

## သူများနှာခေါင်းနှင့် အသက်ရှူ

မိမိနှာခေါင်းပေါက်နှင့် အသက်မရှူဘဲ သူများ နှာခေါင်းပေါက်နှင့် အသက်ရှူသည် ဆိုသကဲ့သို့ ကိုယ့်အစွမ်းနှင့်ကိုယ် မရပ်တည်ဘဲ သူတစ်ပါးကို မှီခိုရပ်တည်သည်။

(စကားပုံ)

## သမုဒ္ဒရာရေ တစ်ယောက်တည်းသောက်၍ မကုန်

သမုဒ္ဒရာရေကို တစ်ဦးတစ်ယောက်တည်း သောက်၍ မကုန်ခန်းနိုင်သကဲ့သို့ ပေါများစွာလှသော အခွင့်အလမ်းများကို တစ်ဦးတစ်ယောက်တည်း ရယူခံစား၍ ကုန်နိုင်ဖွယ် မရှိချေ။

(စကားပုံ)

## ကိုယ့်ဝန်ကိုယ်ထမ်း၊ ကိုယ့်လမ်းကိုယ်သွား။

ကိုယ့်ဝန်ကို ကိုယ်ထမ်း၍ ကိုယ့်လမ်းကို ကိုယ်သွား သကဲ့သို့ တာဝန်သိပြီး မိမိဘဝအတွက် ကောင်းရာ ကောင်းကြောင်းကို ကိုယ်တိုင်လုပ်သွားရသည်။

(စကားပုံ)

## ကြာကြာဝါးမှ ခါးမှန်းသိ

ကြာကြာ ဝါးကြည့်ခါမှ ခါးမှန်း သိလာသကဲ့သို့ အချိန် ကြာကြာ ထိတွေ့ဆက်ဆံကြည့်ခါမှ တကယ် မကောင်းမှန်း သိလာရသည်။

(စကားပုံ)

## ကိုယ့်တပ် ကိုယ် ပြန်နင်း

တပ်ဦးမှ တိုက်သော ဆင်သည် ရန်သူကို နင်းရမည့်အစား မိမိတပ်ကို မိမိပြန်၍ နင်းသကဲ့သို့ မိမိဘက်သားများ အကျိုးမဲ့အောင် ပြုလုပ်သည်။

(စကားပုံ)

## သူခိုးက နွားကောင်းရွေး

သူခိုးသည် နွားခိုးရာတွင် နွားကောင်းမကောင်း ရွေးချင်သေးဆိုသကဲ့သို့ ရပိုင်ခွင့်မရှိသူက အကောင်းကိုမှ ရွေးချယ်ရယူလိုသည်။

(စကားပုံ)

## သံကို သံဖျက် သံချေးတက်

သံကို သံမှဖြစ်သော သံချေးက ဖျက်ဆီးသကဲ့သို့ မိမိကို မိမိလုပ်ရပ်ကပင် ဖျက်ဆီးသည်။

ကိုယ့်ကိုကိုယ်ဖျက် ကိုယ်လျှင်ပျက် - ဟုလည်းရှိ။

(စကားပုံ)

## သဲထဲ ရေသွန်

သဲထဲ ရေသွန်လျှင် ရေမတင်သကဲ့သို့ ကြိုးပမ်း အားထုတ်၍ အရာမထင် အချည်းနှီး ဖြစ်သွားသည်။

(စကားပုံ)

## ထင်ပေါ်လျှင် စင်တော်က ကောက်

သဘင်ပညာတွင် ထင်ပေါ်လာလျှင် စင်တော်က ကောက်ယူချီးမြှောက်သကဲ့သို့ အရည်အချင်းနှင့် ပြည့်စုံ၍ ထင်ပေါ်လာလျှင် ဆိုင်ရာက ချီးမြှင့်နေရာ ပေးသည်။

(စကားပုံ)

## ကြမ္မာဆောင် သားကောင် ဆိတ်ဖြစ်

ကြမ္မာငင်လာလျှင် သားကောင်ကိုပင် ဆိတ်ဟု ထင်မှားမိသကဲ့သို့ ကံမကောင်းလျှင် အန္တရာယ်ကိုပင် အန္တရာယ်ဟု မထင်မှတ်ဘဲ ရှိတတ်သည်။

(စကားပုံ)

## သမဏောန သမဏော၊ ဂေါဏောန ဂေါဏော

ရဟန်းတော်သည် ရဟန်းတော် အချင်းချင်းသာ ပေါင်းဖက်မိသည်။ နွားသည် နွားအချင်းချင်းသာ ပေါင်းဖက်မိသည်။ ထို့အတူ ကောင်းသူသည် ကောင်းသူအချင်းချင်း၊ မကောင်းသူသည် မကောင်းသူအချင်းချင်းသာ ပေါင်းဖက်မိသည်။

(စကားပုံ)

သူများယောင်လို့ယောင်၊ အမောင် တောင်မှန်း မြောက်မှန်းမသိ။

---

သူများက ယောင်ယမ်းသည်ဆို၍ ယောင်ယမ်းသည်ဟု လိုက်ပြောသော်လည်း ဘာမှန်းမသိသကဲ့သို့ သူများလုပ်၍ လိုက်လုပ်သော်လည်း အကျိုးအကြောင်း ဘာမှမသိချေ။

(စကားပုံ)

## ကရိုးမက ဆန်း၍က နှပ်ပစ်ခံရ

ကချေသည်သည် ကနေကျအတိုင်း မကဘဲ ဆန်းပြားစွာ ကမိသောကြောင့် ပရိသတ်၏ ကိုယ်ထိလက်ရောက် ရှုတ်ချခြင်း ခံရသကဲ့သို့ မိမိအလုပ်ကို မိမိ လုပ်နေကျအတိုင်း မလုပ်ဘဲ မဆင်မခြင် ဆန်းပြားစွာ ပြုလုပ်မိသောကြောင့် ပြစ်တင်ရှုတ်ချခြင်း ခံရသည်။

(စကားပုံ)

## ကံယုံ၍ ဆူးပုံမနင်းရာ

ဆူးပုံကိုနင်းလျှင် စူးမည်သာဖြစ်၍ မိမိကံကောင်း
လှသည်ဟု ကံကိုယုံပြီး ဆူးပုံကို မနင်းသင့်
သကဲ့သို့ ဒုက္ခဖြစ်စေနိုင်သော ကိစ္စမှန်သမျှ
ကံကိုယုံပြီး ဇွတ်မပြုလုပ်သင့်။

(မြန်မာစကားပုံ)

## သူကြီးဘုရား ရွာသားကောင်းမှု

သူကြီးအပါအဝင် ရွာသူရွာသားများ စုပေါင်းတည်ထားသောဘုရားကို သူကြီးက သူတည်သည့်ဘုရားဟု ပြောသကဲ့သို့ အများ၏ ကြိုးပမ်းဆောင်ရွက်မှုကို ဦးစီးခေါင်းဆောင်က အမည်ခံသည်။

(စကားပုံ)

## သုံးထမ်းပိုးကျမှ အရွသင်

နွားကို ထွန်ထမ်းပိုး၊ လှည်းထမ်းပိုး၊ ဆုံထမ်းပိုးဖြင့် အဆင့်ဆင့် ကြာရှည်စွာ ခိုင်းပြီးမှ လှည်းယဉ်တွင် ကရန် ကြွကြွရွရွဖြစ်အောင် သင်သကဲ့သို့ အရွယ်ကောင်းချိန်တွင် သင်ကြားတတ်မြောက်ပြီးဖြစ်ရမည့် အတတ်များကို အရွယ်လွန် အချိန်နှောင်းမှ သင်ကြားသည်။

(စကားပုံ)

## သီးချိန်တန်သီး၊ ပွင့်ချိန်တန်ပွင့်။

သစ်ပင်များသည် သီးရမည့်အချိန်တွင် အသီးသီး၍ ပန်းပွင့်များ အပွင့်ပွင့်ရမည့်အချိန်တွင် အပွင့်ပွင့် သကဲ့သို့ အချိန်အခါ အရွယ်ရောက်လာလျှင် အိမ်ထောင်ပြုခြင်းသည် သဘာဝပင်ဖြစ်သည်။

(စကားပုံ)

## သူခိုးလက်က သူဝှက်လု

ခိုးယူလာသော ပစ္စည်းကို အခြား သူခိုးတစ်ယောက်က လုယူသကဲ့သို့ မတရားရှာဖွေထားသော ပစ္စည်းကို အခြားသူတစ်ဦးက အနိုင်ကျင့်၍ ယူသည်။

(စကားပုံ)

မြန်မာစကားပုံ

## သစ်ငုတ်မြင့်တုံ၊ မြက်မြင့်တုံ။

နွေရာသီ၌ မြက်များ ခြောက်သွေ့နေစဉ် သစ်ငုတ်တို က မြက်ပင်များထက် မြင့်နေသော်လည်း မိုးရာသီ၌ မြက်များ ရှင်သန်လာသည့်အခါ မြက်ပင်များက သစ်ငုတ်ထက် မြင့်သွားပြန်သကဲ့သို့ လောကဓံတရား အရ ကိုယ်က မြင့်သည့်အခါ မြင့်၍ သူက မြင့်သည့် အခါ မြင့်ပြန်သည်။

(စကားပုံ)

## ကင်းခြေများ ခြေတစ်ချောင်းကျိုး၍ အသွားမပျက်

ကင်းခြေများသည် ခြေတစ်ချောင်း ကျိုးရုံမျှဖြင့် အသွားမပျက်သကဲ့သို့ ပြည့်စုံသူအဖို့ အနည်းငယ် ဆုံးရှုံးယုတ်လျော့ရုံမျှဖြင့် အခြေအနေ မပျက်ချေ။

(စကားပုံ)

## သူခိုးရှိရာ ဝန်ထုပ်ဝန်ပိုးနှင့်သွား

သူခိုးရှိရာ တောအုပ်သို့ ပစ္စည်းဥစ္စာ အထုပ်အပိုးနှင့် သွားမိသကဲ့သို့ မိမိအား ဘေးအန္တရာယ်ပေးမည့်သူထံ သွားရောက်မိလျက်သား ဖြစ်သည်။

(စကားပုံ)

## သူတော်အချင်းချင်း သီတင်းလွှေလွှေ ပေါင်းဖက်တွေ

သူတော်ကောင်းချင်း အပေါင်းအသင်း ပြုကြသကဲ့သို့ စိတ်တူသူ စရိုက်တူသူ အချင်းချင်း အပေါင်းအသင်း ပြုကြသည်။

(စကားပုံ)

သံဃာအား ဘုရားမဆန်သာ။ (စကားပုံ)

သံဃာအများစု၏ အလိုကို မြတ်စွာဘုရားသော်မှ လွန်ဆန်၍ မပြုသကဲ့သို့ ဦးစီးခေါင်းဆောင်ပြုသူသည် အများစု၏ဆန္ဒကို မလွန်ဆန်သာချေ။

## ကိုယ်ကကျူး ကိုယ့်ဒူးမယုံရ

မိမိကိုယ်ကလွဲလျှင် မိမိကိုယ်ကိုထောက်တည်ထားသည့် မိမိဒူးကိုပင် မယုံကြည်ရသကဲ့သို့ မိမိမှတစ်ပါးအခြားမည်သူကိုမျှ မယုံရချေ။

(စကားပုံ)

## သံကို ကြွက်စား၊ သားကို စွန်ချီ။

သံကို ကြွက်စားသည်ဟု ဆိုသဖြင့် သားကို စွန်ချီသည်ဟု တုံ့ပြန်ပြောဆိုသကဲ့သို့ တစ်ဦးက ကောက်ကျစ်စဉ်းလဲသဖြင့် တစ်ဦးက ပရိယာယ်သုံး၍ တုန့်ပြန်သည်။

(စကားပုံ)

## ကုသိုလ်လည်း ရ၊ ဝမ်းလည်း ဝ။

ကောင်းသောအသက်မွေးခြင်းဖြင့် ကုသိုလ်လည်းရ၊ ဝမ်းလည်း ဝသကဲ့သို့ ကောင်းသော အမှုကို သူတစ်ပါးအတွက် စေတနာကောင်းနှင့် ဆောင်ရွက်ပေးခြင်းဖြင့် မိမိအကျိုးလည်း တစ်ပါးတည်း ပြည့်စုံသည်။

(စကားပုံ)

## သတိမမူ ဂူမမြင်၊ သတိမူက မြူကိုမြင်။

သတိမထားလျှင် ဂူကြီးတစ်လုံးကိုပင် မမြင်နိုင်သော်လည်း သတိထားကြည့်လျှင် မြူကိုပင် မြင်နိုင်သည်ဆိုသကဲ့သို့ အရာရာတွင် သတိလက်လွတ် မဖြစ်ရန်လိုအပ်သည်။

(စကားပုံ)

ကိုယ့်မျက်ချေး ကိုယ်မမြင်၊
သူများမျက်ချေး ကိုယ်မြင်။

မိမိ မျက်ချေးကိုမူ မမြင်ဘဲ အခြားပုဂ္ဂိုလ်၏ မျက်ချေးကိုမူ မြင်တတ်သကဲ့သို့ မိမိအပြစ်ကို မမြင်ဘဲ အခြားပုဂ္ဂိုလ်၏ အပြစ်ကိုမူ မြင်တတ်သည်။

(စကားပုံ)

## ချောင်းကိုပစ်၍ မြစ်ကိုရှာ၊
## ရေသာများ၍ ငါးမတွေ့။

ချောင်းကို ငယ်သည်၊ ကျဉ်းသည်၊ ငါးအရနည်းသည် ဟု စွန့်ခွာပြီး မြစ်တွင် ငါးရှာရာ ရေသာများပြီး ငါးမရသကဲ့သို့ မိမိ၏ လက်ရှိအရာကို ကောင်းသည် ဟု မယူဆဘဲ အသစ်ကိုရှာဖွေရာ ဒုက္ခသာ များ၍ အကျိုးမရ ဖြစ်သည်။

(စကားပုံ)

# ကောက်တိုင်းရ စလုတ်မဆံ့နိုင်

ကြက်သည် အစာရှာရာတွင် နှုတ်သီးဖြင့် ကောက်ယူတိုင်းသာ အစာရမည်ဆိုပါက စလုတ်နှင့် မဆံ့နိုင်အောင် ရရှိမည်ဖြစ်သကဲ့သို့ ရှာဖွေလုပ်ဆောင်တိုင်းသာ ရရှိမည်ဆိုလျှင် သိမ်းဆည်း၍ပင် နိုင်မည်မဟုတ်ပေ။

(စကားပုံ)

## ကမ္ဘာမီးလောင် သားကောင်ချနင်း

ကမ္ဘာမြေကြီး မီးလောင်သကဲ့သို့ အလွန် ပူပြင်းသော အခါ မိခင်ဖြစ်သူသည် မိမိသက်သာရာ ရစေရန် မိမိ သားသမီးကိုပင် မြေတွင်ချနင်းသည် ဆိုသကဲ့သို့ ဘေးနှင့် ကြုံတွေ့ရလျှင် မည်သူ့ကိုမျှ မငဲ့ကွက်နိုင်၊ မိမိ လွတ်မြောက်ရာ လွတ်မြောက်ကြောင်းကိုသာ လုပ်ဆောင်သည်။

(စကားပုံ)

## သူခိုးပြေးမှ ထိုးကွင်းထ (စကားပုံ)

သူခိုးရှိစဉ်က မည်သည့်အစွမ်းမျှ မပြဘဲ သူခိုး ပြေးခါမှ ထိုးကွင်းက အစွမ်းပြသကဲ့သို့ ပြဿနာနှင့် ရင်ဆိုင်မည့် အချိန်၌ ငြိမ်နေပြီး ပြဿနာ ပြေလည်သွားခါမှ မိမိ မည်မျှအစွမ်းသတ္တိရှိကြောင်း ဟိတ်ဟန်တပြပြ လုပ်သည်။

(စကားပုံ)

## သစ်မရခင်စပ်ကြား ဝါး ပေါင်းကွတ်

အိမ်ဆောက်ရာတွင် ရက်မတန်းအတွက် သစ်သား မရသေးမီ ဝါးကိုပင် ပေါင်းကွတ်ရသကဲ့သို့ တကယ့်အကောင်းအမွန်ကို မရသေးမီစပ်ကြား အထိုက်အလျောက် သင့်တင့်ရာကို အဆင်ပြေအောင် သုံးသည်။

(စကားပုံ)

## သမီးပေးမှ သမက်ရ

မိမိက အပေးရှိမှ သူ့ထံမှ အရရှိသည်။

ဆန်ပေးမှ ဆေးရ - နှင့် အတူတူ။

(စကားပုံ)

## သခင်အားရ ကျွန်တန်ဝ

သခင်က အားရကျေနပ်သည်ဆိုလျှင် ကျွန်ဆိုးသည် အဝါးဝသည့် ပြုမူပြောဆိုမှုများ ပြုလာသကဲ့သို့ မိမိ ဆရာတင်ထားသူက အားရသည် ဆိုလျှင် တစ်ဖက်သားအပေါ် ထောင်လွှားကာ ဖိစီးနှိပ်စက်သည်။

(စကားပုံ)

## သဒ္ဓါလွန်း ဆွမ်းတော်တော်ရပ်

သဒ္ဓါတရားအလွန်ရှိသည်ဟူ၍ အကြိမ်ကြိမ် ဆွမ်းအလှူခံလျှင် သဒ္ဓါပျက်မည်ဖြစ်သကဲ့သို့ စေတနာတရားရှိလှသည်ဟူ၍ အခွင့်အကောင်းယူလွန်းပါက စေတနာပျက်တတ်သည်။

(စကားပုံ)

## ကျားကြီး ခြေရာကြီး (စကားပုံ)

ကျား၏ အရွယ် ကြီးလာသည်နှင့်အမျှ ခြေရာကြီး လာသကဲ့သို့ ရာထူးဂုဏ်သိန် ကြီးလာသည်နှင့်အမျှ အကုန်အကျ ပိုမို များပြားလာသည်။

## ကောင်းမှန်းသိ သာအိတစိုစို

စားကောင်းမှန်း မသိခင်က မစားချင်သော်လည်း စားကြည့်၍ အရသာသိသွားသည့်အခါ ထိုအစာကို တွေ့တိုင်း သွားရည်တမျှားမျှား ဖြစ်နေသကဲ့သို့ ယခင်က ကောင်းမှန်း မသိသေးသည့်အရာကို ယခု ကောင်းမှန်းသိသည်နှင့် လက်မလွှတ်နိုင် ဖြစ်သည်။

(စကားပုံ)

## ကျားကိုက်ပါတယ်ဆို နာတာရှည်လားမေး

ကျားကိုက်ခံရသည်ဟု ပြောပြီးပါလျက် နာတာရှည် ရောဂါနှင့် ဆုံးသလားဟု မေးသကဲ့သို့ အကြောင်း ကိစ္စကို ထင်ထင်ရှားရှား ပြောပြီးပါလျက် မလိုအပ်ဘဲ ထပ်မေးသည်။

(စကားပုံ)

## သိကြားမင်း ကျွဲယောင်ဆောင် ချိုကား

သိကြားမင်းကိုယ်တိုင် နတ်တို့တန်ခိုးဖြင့် အလှဆုံးကျွဲဖြစ်အောင် ဖန်ဆင်းပြစေကာမူ ချိုကားသည်ဟု ရှာရှာကြံကြံ ဝေဖန်ခံရခြင်း မလွတ်သကဲ့သို့ မည်မျှပင်ကောင်းအောင် ကြိုးစားလုပ်ဆောင်စေကာမူ ရှာကြံ၍ ဝေဖန်အပြစ်ပြောခံရခြင်းမှ လွတ်မည်မဟုတ်ချေ။

(စကားပုံ)

# သေ မြေကြီး၊ ရှင် ရွှေထီး

တိုက်ပွဲဝင်၍ သေသော် မြေကြီးဩဇာဖြစ်ရုံအပြင် မရှိ၊ ရှင်သော် ရွှေထီးဆောင်း၍ အထွတ်အမြတ် စည်းစိမ်ကို ခံစားရမည် ဖြစ်သကဲ့သို့ စွန့်စွန့်စားစား လုပ်ဆောင်၍ မအောင်မြင်သော် ဖြစ်မြဲတိုင်းထက် တိုး၍ နစ်နာဆုံးရှုံးစရာ မရှိ၊ အောင်မြင်ခဲ့သော် ရနိုင်ခဲလှသော အကျိုးကျေးဇူးကို ရရှိမည်ဖြစ်သည်။

(စကားပုံ)

## သခွတ်ပင်က မီးတကျည်ကျည်

အဖိုးတန်သည့် သစ်တောကြီးတစ်ခုလုံး မီးဟုန်းဟုန်း တောက်လောင်နေဆဲတွင် အဖိုးမတန်သည့် သခွတ်ပင်က မီးထလောင်၍ အသံတကျည်ကျည် မြည်နေသကဲ့သို့ အရေးတကြီး ကိစ္စပေါ်ပေါက်နေဆဲတွင် အရေးမကြီးသည့် ကိစ္စအတွက် နားပူနာဆာ ပြုလုပ်သည်။

(စကားပုံ)

## သားရေပေါ် အိပ် သားရေနားစား

ခွေးသည် သားရေအခင်းပေါ်၌ အိပ်ရင်း ထိုသားရေအခင်း၏ အနားကို စားသကဲ့သို့ မိမိအား ကျေးဇူးပြုမှုကို ခံစားရင်း ကျေးဇူးပြုသူ၏အကျိုး ပျက်စီးရာ ပျက်စီးကြောင်းကို ပြုလုပ်သည်။

(စကားပုံ)

## ကိုယ်မချို အမိသော်လည်း သားတော်ခဲ

မိခင်သည် အတိဒုက္ခရောက်နေချိန်တွင် မိမိသားသမီးကိုပင် သားသမီးဟူ၍ မယူဆနိုင်သကဲ့သို့ မိမိ အတိဒုက္ခရောက်နေချိန်တွင် မည်သူကိုမျှ မငဲ့မထောက်နိုင် ဖြစ်သည်။

(စကားပုံ)

# သားတစ်သာ မြင် ကျော့ကွင်း မမြင်

သားတစ်ကိုသာ မြင်၍ ကျော့ကွင်းကို မမြင်သော သားကောင်ကဲ့သို့ ရရှိမည့်အကျိုးကိုသာ မြင်၍ ကြုံတွေ့ရမည့် အန္တရယ်ကို မမြင်နိုင်ဖြစ်သည်။

(စကားပုံ)

# ကိုယ့်လက်ခုပ်တွင်းကရေ သွန်လိုသွန် မှောက်လိုမှောက်။

လက်ခုပ်တွင်းကရေသည် သွန်လိုကသွန်၊ မှောက်လိုကမှောက် ပြုသမျှ ခံရမည် ဖြစ်သကဲ့သို့ တစ်ပါးသူ၏ လက်တွင်း၌ ရောက်နေသူသည် ပြုသမျှ ခံရမည်သာ ဖြစ်သည်။

(စကားပုံ)

## သူတောင်းစားချင်း ခွက်စောင်းခုတ်

သူတောင်းစားအချင်းချင်း ထမင်းလုရာမှ ရန်ဖြစ်ကာ ခွက်စောင်းဖြင့် ခုတ်ကြသကဲ့သို့ စိတ်ဓာတ်နိမ့်ကျသူတို့သည် ဘဝတူအချင်းချင်း စီးပွားလုရာမှ အောက်တန်းကျကျ ထိုးနှက်တိုက်ခိုက်သည်။

(စကားပုံ)

# ချော်လဲ ရောထိုင်။

ချော်လဲသည်ကိုပင် တမင် ထိုင်ချလေဟန်ပြုသကဲ့သို့ ရုတ်တရက် ဖြစ်ပေါ်လာသော အခြေအနေနှင့် အလိုက်သင့် အလျားသင့် ပြုမှုပြောဆိုသည်။

(စကားပုံ)

## သီတင်းကျွတ်မည့်အရေး တော်သလင်းကန့်လန့်

သီတင်းဝါလကျွတ်ပါမည့်အရေး တော်သလင်းလက တော်တော်နှင့် မကုန်ဆုံးနိုင်ဘဲရှိသကဲ့သို့ လိုရင်း ကိစ္စ ပြီးမြောက်မည့်အရေး ရှေ့ပြေးကိစ္စများက တော်တော်နှင့် မပြီးဆုံးနိုင်ဘဲရှိသည်။

(စကားပုံ)

## ကုသိုလ်တစ်ပဲ၊ ငရဲတစ်ပိဿာ

ကုသိုလ်ဖြစ်ရန် ရည်ရွယ်ချက်ဖြင့် လုပ်သော်လည်း လုပ်ပုံကိုင်ပုံ မလျော်ကန်လျှင် အကုသိုလ်များစွာ ဖြစ်ရသကဲ့သို့ ကောင်းစေလို၍ လုပ်သော်လည်း လုပ်ပုံကိုင်ပုံ မလျော်ကန်လျှင် အကျိုးထက် အပြစ်က များစွာပိုဖြစ်သည်။

(စကားပုံ)

## သူ့ ဆန်စား ရဲမှ (စကားပုံ)

သူ၏ထမင်းကို စားလျှင် သူ့တာဝန်ကို ထမ်းရမည် ဖြစ်သကဲ့သို့ သူ၏ထောက်ပံ့မှုရယူလျှင် သူပေးသည့် တာဝန်ကို ကြောက်ရွံ့ငြင်းဆန်၍ မဖြစ်ချေ။

## သွားချေးထူရာတွင် ပိန်းဥစားပြန်သည်

သွားချေးပြောင်စင်စေရန် ယောက္ခမဖြစ်သူက သားမက်အား ကြံ့ဝယ်စုပ်ခိုင်းရာ ပိန်းဥကို ဝယ်စားသဖြင့် သွားချေးပိုထူလာသည် ဆိုသကဲ့သို့ အသိဉာဏ်နည်းပါးသူကို အကြံဉာဏ်ကောင်းပေးသော်လည်း သဘောမပေါက်သဖြင့် ပိုဆိုးသွားသည်။

(စကားပုံ)

## သူများဗိုက်နှင့် ဓားထိုးခံ

ဗိုက်ကို ဓားထိုးခံရမည့် အမှုမျိုး၌ သူတစ်ပါးကို မြှောက်ပင့်ကာ မိမိကိုယ်စား ဓားထိုးခံစေသကဲ့သို့ ဘေးအန္တရာယ် ကြုံတွေ့ရမည့်အမှု၌ သူတစ်ပါးအား သွေးထိုးလှုံ့ဆော်ကာ ဘေးအန္တရာယ် ရင်ဆိုင်စေပြီး မိမိကမူ ဘေးကင်းရာ၌ ရှောင်နေသည်။

(စကားပုံ)

## သဒ္ဓါလို့ပေး သေဆေးသော်မှ အာစောက်ချ

သဒ္ဓါသဖြင့် ပေးလာခဲ့သော် သေဆေးပင်ဖြစ်စေကာမူ အာစောက်မှ မျိုချရသည် ဆိုသကဲ့သို့ စေတနာကောင်းနှင့် ပေးကမ်းလာသော် မနှစ်သက်စေကာမူ ကောင်းမွန်စွာ လက်ခံရသည်။

(စကားပုံ)

## သစ်နှစ်ပင်ကြား ဝါးပေါက်

သစ်နှစ်ပင်ကြားတွင် ပေါက်သည့် ဝါးသည် မလှုပ်သာ မရှားသာ ဖြစ်သကဲ့သို့ ပြဿနာနှစ်ခုကြားတွင် အကျဉ်းအကျပ် ဖြစ်နေသည်။

(စကားပုံ)

# သစ်တစ်ပင်ကောင်း ငှက်တစ်သောင်းနားရ။

သစ်ပင်တစ်ပင်သည် အခက်အလက် ဝေဆာပြီး အရိပ်အာဝါသနှင့် ပြည့်စုံပါက ငှက်တစ်သောင်း ခိုဝင်နားနိုင်သကဲ့သို့ တစ်ဦးတစ်ယောက်ကောင်းစားပါက အများ မှီခိုအားထားနိုင်ပေသည်။

(စကားပုံ)

## သန်းခေါင်ထက် ညဥ့်မနက်။ (စကားပုံ)

သန်းခေါင်သည် ညဥ့်အနက်ဆုံးအချိန် ဖြစ်၍ ထို့ထက်တိုး၍ ညဥ့်မနက်နိုင်၊ ထို့အတူ အဆုံးစွန်သော အခြေအနေရောက်မှ ထို့ထက်တိုး၍ ဆိုးရွားရန် အကြောင်းမရှိတော့ချေ။

"ကံဆိုးမ မျက်နှာမွဲတို့သည် သန်းခေါင်ထက် ညဥ့်မနက်တော့ပါဘူး လေဆိုပြီး ပျက်စီးခြင်းနောက်သို့ ရေစုန်မျောပြီး လိုက်သွားကြတော့၏။"

မြန်မာစကားပုံ

## သား ရွှေအိုးထမ်း

မိမိလည်း မျက်စိအလင်းရ၊ သားလည်း သေရာမှ ပြန်၍ ရှင်ကာ ရွှေအိုးရသည့်ကိန်း ဆိုက်သကဲ့သို့ လုပ်ငန်းနှစ်ခု ဆက်စပ်ကာ တစ်ပြိုင်နက် အကျိုး ဖြစ်ထွန်းသည်။

(စကားပုံ)

## သူဌေး ကြေးပွံ့ (စကားပုံ)

သူဌေးကို ငွေကြေးထောက်ပံ့သည်ဆိုသကဲ့သို့ ကုံလုံ ပြည့်စုံနေသူကို ပံ့ပိုးပေးကမ်းသည်။

ရေများရာ မိုးရွာ- နှင့်အတူတူ။

## နောင်ခါလာ နောင်ခါဈေး

နောင်အခါမှ လာရောက်လျှင် နောင်အခါပေါက်သည့် ဈေးနှင့် ရောင်းဝယ်ရမည် ဖြစ်သကဲ့သို့ နောင်ဖြစ်လာမည့် ပြဿနာကို နောင်ပေါ်လာမည့် အခြေအနေအရ ကြည့်၍ ဖြေရှင်းရန်ဖြစ်သည်။

(စကားပုံ)

## သခွတ်ပွင့် တစ်ပြည်ပြုတ်၍ တစ်ဆုပ်မရ

သခွတ်ပွင့် တစ်ပြည်ပြုတ်သော်လည်း လက်တစ်ဆုပ်မျှပင် မရသကဲ့သို့ မည်မျှပင် ကြိုးစားလုပ်ဆောင်သော်လည်း လုပ်ဆောင်သလောက် အကျိုးမများဖြစ်သည်။

(စကားပုံ)

## မီးဝေး ချိပ်မာ (စကားပုံ)

၁။ ချိပ်သည် မီးနှင့်နီးလျှင် ပျော့ပြီး မီးနှင့်ဝေးလျှင် မာသကဲ့သို့ တစ်ဦးနှင့်တစ်ဦးသည် အနေနီးလျှင် ခင်မင်ရင်နှီးမှုရှိပြီး ဝေးလျှင် ခင်မင်ရင်နှီးမှု လျော့နည်းသည်။

၂။ ချိပ်သည် မီးနှင့်နီးလျှင် ပျော့ပြီး မီးနှင့်ဝေးလျှင် မာသွားသကဲ့သို့ အနီးကပ်သွန်သင်ဆုံးမသည့်အခါ လိမ္မာယဉ်ကျေးပျော့ပျောင်းသော်လည်း ဝေးသည့်အခါ အလိမ္မာတရား လျော့ပါးသွားသည်။

## ကျားကျား မီးယပ်

ယောကျ်ားလူနာ ဖြစ်စေကာမူ မီးယပ်ရောဂါပင် ဖြစ်သည်ဟု ဆေးဆရာက မလျော့တမ်း ပြောဆိုသကဲ့သို့ မိမိပြောဆိုမိသည်ကို ယုတ္တိမတန်မှန်း သိပါလျက် ဇွတ်တိုး၍ မလျော့တမ်း ဆုပ်ကိုင်ပြောဆိုသည်။

(စကားပုံ)

## သူခိုး သေဖော်ညှိ

သူခိုးသည် အသက်အန္တရာယ်ရှိသည့် ခိုးမှုကို အတူကျူးလွန်ရန် အဖော်ညှိသကဲ့သို့ ဒုက္ခတွေ့နိုင်သည့် ကိစ္စတစ်ခုကို အတူပြုလုပ်ရန် အဖော်ညှိသည်။

(စကားပုံ)

## ကလိမ်စေ့ ငြမ်းဆင်

စေတီပုထိုး၊ အဆောက်အအုံများကိုသာ ငြမ်းဆင်ရမြဲဖြစ်သည်။ ကလိမ်စေ့သည် ငြမ်းဆင်ရသော အရာမဟုတ်။ ထိုသို့မဟုတ်ပါဘဲလျက် ကလိမ်စေ့ကို ငြမ်းဆင်သည်ဆိုသကဲ့သို့ ယုတ္တိမတန်သော စကားကို လျှည့်ပတ်ပြောဆိုသည်။

(စကားပုံ)

## သည်ယုန်မြင်လို့ သည်ချုံထွင်

ချုံရှင်းလို၍ မဟုတ်ဘဲ ယုန်ရရန် မြော်မြင်ချက်ဖြင့် ချုံကို ခုတ်ထွင်ရှင်းလင်းဘိသကဲ့သို့ အလားအလာကို မြော်မြင်၍ အခြေအနေတစ်ရပ်ကို ဖန်တီးသည်။

(စကားပုံ)

ဒီယုန်မြင်လို့ ဒီချုံထွင်- နှင့်အတူတူ

# သာလကာတစ်လင်ပန်း
# ပင်ပန်းကာတစ်ယောက်မ

မပင်မပန်း သက်သောင့်သက်သာ ဆောင်ရွက်ရသူက တစ်လင်ပန်းစာမျှ ဝဝလင်လင် စားရသော်လည်း ပင်ပင်ပန်းပန်း ဆောင်ရွက်ရသူက တစ်ယောက်မမျှ လောက်သာ မဝမလင် စားရသည် ဆိုသကဲ့သို့ သက်သာသူက အခွင့်အရေးများစွာ ရသော်လည်း ပင်ပန်းသူက အခွင့်အရေး နည်းနည်းသာ ရသည်။

(စကားပုံ)

## သည်ပုတ်ထဲက သည်ပဲ

ပဲတစ်မျိုးတည်းထည့်ထားသော ပုတ်ထဲမှ ထိုပဲမျိုးသာ ထွက်လာသကဲ့သို့ သည်အစု၌ ပါဝင်သူဟူသမျှသည် သည်စရိုက်လက္ခဏာမျိုးသည် ရှိသူဖြစ်သည်။

“မိန်းမဟူသည်၊ ယေဘုယျချည်း၊ ထိုနည်းမလွဲ၊ သည်ပုတ်ထဲက သည်ပဲမျိုးသာ၊ ဆိုပမာတည်း၊”

## သူခိုးရွှေရ တပြုံပြုံ

သူခိုးသည် မိမိ မပိုင်ဆိုင်ဖူးသော ရွှေကို ခိုးယူရရှိသဖြင့် ဝမ်းသာလျက် ဟိုလူပြုံ သည်လူပြုံနှင့် ကြွေမရ ဖြစ်နေသကဲ့သို့ မစားရ မသုံးရစဖူး စားရသုံးရသူသည် ကြွေမရ တကြွကြွ ဖြစ်နေသည်။

(စကားပုံ)

## သားသမီးမကောင်း မိဘခေါင်း

သားသမီး မလိမ္မာလျှင် မိဘတွင် တာဝန်မကင်း သကဲ့သို့ ငယ်ရွယ်သူ မလိမ္မာလျှင် အုပ်ထိန်းသူများတွင် တာဝန်ရှိသည်။

(စကားပုံ)

## ထန်းပလပ် နတ်ရုပ်ထင်

မိမိနှစ်သက်မြတ်နိုးမိလျှင် ထန်းပလပ်ကိုပင် နတ်ရုပ်ဟု ထင်မှတ်သကဲ့သို့ မိမိမြတ်နိုးလျှင် မလှပသည်ကိုပင် အလွန်အကြူး လှပသည်ဟု ထင်မှတ်သည်။

(စကားပုံ)

## ထုလေမာလေ ငါးဖယ်တေ

ငါးဖယ်သည် ထုလေမာလေဖြစ်သကဲ့သို့ သွန်သင်ဆုံးမလေ ပိုခေါင်းမာလေဖြစ်သည်။

(စကားပုံ)

## သမင်မွေးရင်း ကျားစားရင်း

ဘဝအဆက်ဆက် ရန်ဘက်ဖြစ်လာခဲ့ရာ တစ်ဦးက သမင်၊ တစ်ဦးက ကျားဘဝတွင် သမင်းမွေးလိုက်တိုင်း ကျားက စားပစ်သကဲ့သို့ အကျိုးတစ်စုံတစ်ရာ ဖြစ်ပေါ်လာတိုင်း အဖတ်မတင်ဘဲ ကုန်သွားသည်။

(စကားပုံ)

## သံပုရာသီးလို ကြီးလေ ချဉ်လေ

သံပုရာသီးသည် ကြီးရင့်လာလေလေ ပို၍ ချဉ်လေ ဖြစ်သကဲ့သို့ အသက်အရွယ်ကြီးလာလေ ပို၍ မိုက်မဲလေ ဖြစ်သည်။

(စကားပုံ)

# သူခိုးက လူ လူ ဟစ်

တကယ်ခိုးသူက တစ်ပါးသူအား သူခိုးဟု ထင်မှားစေရန် လူ လူဟု ဦးအောင် အော်သကဲ့သို့ အပြစ်ရှိသူက မိမိ၏ အပြစ်ကို သူတစ်ပါးအပေါ် လှိုးလွှဲပုံချရန် ဦးအောင် စွပ်စွဲပြောဆိုသည်။

(စကားပုံ)

## နူးရာ ဝဲစွဲ၊ လဲရာ သူခိုးထောင်း

နူနာရောဂါ စွဲကပ်နေရာတွင် ယားယံသော ဝဲနာ ထပ်ပေါက်သကဲ့သို့ လဲကျရာတွင် သူခိုးက တံတောင်နှင့် ထောင်းပြန်သကဲ့သို့ ဒုက္ခဖြစ်နေရာတွင် နောက်ထပ် ဒုက္ခတစ်မျိုး ထပ်ဆင့် ပေါ်လာပြန်သည်။

(စကားပုံ)

## ခွေးဖြူ တောမတိုးဝံ့

ကြောက်ရွံ့တတ်သော ခွေးဖြူသည် တောမတိုးဝံ့ သကဲ့သို့ သတ္တိနည်းသူသည် အခက်အခဲကို ရင်မဆိုင်ဝံ့ချေ။

(စကားပုံ)

## နောက်မှလည်းမွေးသေး မိဦးလည်းမှည့်သေး

သားဦးသမီးဦးတို့ကိုသာ 'ဦး' ထည့်၍ မှည့်လေ့ရှိပါလျက် နောက်မှ မွေးသော သမီးက မိဦး ဟူသော အမည်ခံယူထားသကဲ့သို့ နောက်မှ လာသူဖြစ်လျက် အခွင့်အရေးကို ဦးစွာ ရယူသည်။

(စကားပုံ)

## ခေါင်းတစ်လုံးနှင့် ရေအိုးနှစ်လုံး မရွက်နိုင်။

လူတစ်ယောက်သည် ရေအိုးကြီးနှစ်လုံးကို တစ်ပြိုင်တည်း မရွက်နိုင်သကဲ့သို့ ကြီးမားသော တာဝန်နှစ်ခုကို တစ်ပြိုင်တည်း ထမ်းဆောင်ရန် ခဲယဉ်းသည်။

(စကားပုံ)

## ဖြစ်မည့်ခွေး အမွေးတခြား

ဖြစ်ထွန်းမည့်ခွေးသည် အခြားခွေးများထက် အသွေးအမွေး ထူးခြားသကဲ့သို့ အစွမ်းအစ ရှိမည့်သူသည် သူတစ်ပါးထက် ထူးခြားသော အသွင်အပြင် အမူအကျင့် ရှိသည်။

(စကားပုံ)

## ထမင်းရည်ပူ လာ လျှာလွှဲ။

ခံတွင်းသို့ သွင်းလာသော ထမင်းရည်ပူကို လျှာသည် ထိမည်စိုး၍ ရှောင်လွှဲသကဲ့သို့ ကိစ္စတစ်ခု၌ ပါဝင်ပတ်သက်လိုခြင်း မရှိသဖြင့် ရှောင်လွှဲသည်။

(စကားပုံ)

## ပွဲလန့်တုန်း ဖျာခင်း

ပွဲလန့်စဉ်တွင် ဖျာခင်းကာ အချောင်နေရာယူသကဲ့သို့ အခြေအနေ ဗရုတ်ဗရက်ဖြစ်နေစဉ် အခွင့်အရေးကို အချောင်ရယူရန် ကြိုးစားသည်။

(စကားပုံ)

## နေပူတုန်း စပါးလှန်း

နေပူစဉ် စပါးလှန်းရသကဲ့သို့ အခြေအနေပေးစဉ် လုံ့လစိုက်၍ အခွင့်အရေးကို အသုံးချရသည်။

(စကားပုံ)

## ခလုတ်ထိမှ အမိတ (စကားပုံ)

ဖြောင့်ဖြူးသောလမ်းကို လျှောက်နေစဉ် မိခင်ကို သတိမရ၊ ခလုတ်တိုက်မိသောအခါမှ အမယ်လေးဟု အမိကို တသကဲ့သို့ ဒုက္ခနှင့် ကြုံတွေ့ရခါမှ ကိုးကွယ်ရာကို သတိရသည်။

## ခြံဝင် နွားပါ (စကားပုံ)

နွားကျောင်းသားသည် ညနေ နွားကောက်၍ ခြံသွင်းချိန်၌ နွားအစုံအစေ့ ပါလာစေရန်သာ လိုရင်းဖြစ်သကဲ့သို့ အချိန်တန်က ပြီးစီးပြည့်စုံစေရန်သာ လိုရင်းဖြစ်သည်။

## ခဲမှန်ဖူးတဲ့ စာသငယ်

ခဲမှန်ဖူးသော စာသငယ်သည် လူကို မြင်တိုင်း လန့်နေသကဲ့သို့ ဒုက္ခရောက်ဖူးသည်သည် အန္တရာယ် အရိပ်အယောင်တွေ့တိုင်း ထိပ်လန့်တုန်လှုပ်သည်။

(စကားပုံ)

## ထန်းသီးကြွေခိုက် ကျီးနင်းခိုက် (စကားပုံ)

ထန်းခိုင်မှ ထန်းသီးကြွေသည့်အချိန်နှင့် ထိုထန်းသီးကို ကျီးနင်းသည့်အချိန် တိုက်ဆိုင်ကြုံကြိုက်သွားသကဲ့သို့ ဖြစ်ရပ်တစ်ခုနှင့်တစ်ခုသည် တိုက်တိုက်ဆိုင်ဆိုင် ဖြစ်သွားသည်။

## မျက်နှာသိ ငါးပိမဝယ်ရ (စကားပုံ)

မိမိနှင့်သိကျွမ်းသည်ဟု စိတ်ချပြီး ငါးပိဝယ်လျှင် စိတ်တိုင်းမကျသည့်အခါ ပြန်ပြောရန် အားနာရ သဖြင့် မဝယ်ပါလေနှင့်။ ထိုနည်းတူ မိမိနှင့် ခင်မင် ရင်နှီးပြီးသူဟု ယုံကြည်စိတ်ချပြီး အလုပ်အတူတူ လုပ်လျှင် စိတ်တိုင်းမကျသည့်အခါ မျက်နှာနာရ သဖြင့် အတူတကွ ဖက်စပ် လုပ်ကိုင်ခြင်း မပြုပါလေနှင့်။

## ထန်းလျက်ဝယ်ရာ တည်သီးကန့်လန့်ကန့်လန့်

ထန်းလျက်ဝယ်ရာတွင် တည်သီးက ကြားဝင်ရှုပ်သကဲ့သို့ အလုပ်ကိစ္စလုပ်ရာတွင် ကြားမှ အနှောင့်အယှက် ဝင်လာသည်။

(စကားပုံ)

## မိုးပြို အများနှင့်။

မိုးပြိုသော် မိမိတစ်ယောက်တည်း ခံရမည်မဟုတ်၊ အားလုံးအမျှ ခံကြရမည်ဖြစ်သကဲ့သို့ အများနှင့်အတူ လုပ်ရာတွင် ဖြစ်ပေါ်လာမည့် အန္တရာယ်ကို မိမိတစ်ဦးတည်း ခံရမည်မဟုတ်၊ အားလုံးအမျှ ခံကြရမည်ဖြစ်သည်။

(စကားပုံ)

## နေတော့ ပျဉ်ထောင်၊ စားတော့ ချဉ်ပေါင်

လူမြင်သူမြင် နေထိုင်ရာတွင် ပျဉ်ထောင်အိမ်ကြီးနှင့် တခမ်းတနားရှိသော်လည်း လူမမြင်သည့် စားသောက်မှုတွင်မူ ချဉ်ပေါင်ဟင်းသာ စားနေရသကဲ့သို့ အများအမြင်တွင် ကြွယ်ဝဟန်ရှိသော်လည်း အမှန်တကယ်မူ ချို့ချို့ငဲ့ငဲ့ ဖြစ်နေသည်။

(စကားပုံ)

## ပန်းပဲသမား ဓားကောင်းမကိုင်ရ

ဝယ်ယူသူတို့က ဓားကောင်းများကို ရွေးယူသွားသဖြင့် ဓားကို ထုတ်လုပ်သည့် ပန်းပဲသမားသည် ဓားကောင်း မသုံးရသကဲ့သို့ မိမိလက်ဖြစ် ပစ္စည်းကောင်းကို မိမိ အသုံးမပြုရဘဲ ရှိသည်။

မြန်မာစကားပုံ

## ဘုရားလည်းဖူး လိပ်ဥလည်းတူး

ဘုရားဖူးရန် သွားရောက်ရင်း လိပ်ဥလည်း တူးသည် ဆိုသကဲ့သို့ ကိစ္စတစ်ခုအတွက် သွားရောက်လုပ်ကိုင်ရင်း အမြတ်ပေါ်မည့် အခြားကိစ္စတစ်ခုကိုလည်း လုပ်ဆောင်သည်။

(စကားပုံ)

## ထောပတ်ကောင်း စလောင်းနှင့်တည်

အမျိုးအစားကောင်းမွန်သော ထောပတ်ကို စလောင်းနှင့်ထည့်၍ တည်ခင်းကျွေးမွေးစေကာမူ ထောပတ်၏ ကောင်းမွန်သောအရသာ ပျက်မသွားသကဲ့သို့ အရည်အချင်းရှိသူသည် မည်သည့်နေရာသို့ပင် ရောက်ရောက် မိမိ၏အရည်အချင်း ယုတ်လျော့သွားမည် မဟုတ်ချေ။

(စကားပုံ)

# ၄၆။

---

## ခွေးကြီးမှ လက်ပေးသင် - နှင့် အတူတူ။

## နွားထီးငါးကျပ်၊ နွားမငါးကျပ်

တန်ဖိုးချင်းမတူသည့် နွားထီးနှင့် နွားမကို တန်ဖိုးအတူတူထား၍ သတ်မှတ်သကဲ့သို့ အရည်အချင်းမတူသည်ကို တူသကဲ့သို့ တန်ဖိုးဖြတ်သည်။

(စကားပုံ)

## ထမ်းပိုးထက် လက်ခကြီး

ပစ္စည်းတစ်ခု၏ မူလတန်ဖိုးထက် လက်ခက ပိုများသည်ဆိုသကဲ့သို့ အမှုကိစ္စတစ်ခုအတွက် ကုန်ကျစရိတ်မှာ ရလဒ်နှင့် မကာမိအောင် ကြီးမားလှသည်။

(စကားပုံ)

မြန်မာစကားပုံ

# ခင်ကြီး လက်ရန်းတက်က ကျပ်ခိုးစင်ပေါ် မောင်ရှင် မတက်လား။

စည်းကမ်းကြပ်မတ်ရမည့် ဘုန်းတော်ကြီးက သမဏသာရုပ်ပွကင်းစွာ လက်ရန်းပေါ်တက်လျှင် ကိုရင်များမှာမူ ကျပ်ခိုးစင်ပေါ်တက်၍ပင် ဆော့ကြမည်ဖြစ်သကဲ့သို့ အကြီးအအုပ် လုပ်သူက မဆင်မခြင်နေထိုင်လျှင် ငယ်သူများမှာ ပို၍ ပရမ်းပတာနေထိုင်မည် သာ ဖြစ်သည်။

(စကားပုံ)

## ထန်းရည်မူး ကျွဲခိုးပေါ်

ထန်းရည်မူးသည့်အခါ မိမိ ကျူးလွန်ခဲ့သည့် ကျွဲခိုးမှုကိုပင် ထုတ်ဖော်ပြောဆိုမိသကဲ့သို့ စိတ်မထိန်းနိုင်သည့်အခါတွင် ဖုံးဖိထားသောအမှုများ ပေါ်လာသည်။

(စကားပုံ)

## ထမင်းကြမ်းက အငွေ့ထွက်ချင်

အငွေ့ထွက်ရန် အကြောင်းမရှိသော ထမင်းကြမ်းက အငွေ့ထွက်ချင်သကဲ့သို့ ပူပန်စရာမလိုသောသူက ပူပန်ချင်သည်။

(စကားပုံ)

## ခရမ်းသီးပိန် ဓားတုံး (စကားပုံ)

ခရမ်းသီးပိန်ကို ဓားတုံးတုံးဖြင့် လှီးလျှင် အလွယ်တကူ မပြတ်သကဲ့သို့ ပစ္စည်းဂုဏ်သိန် အရှိန်အဝါ ညှိုးမှိန်နေသောအခါ၌ အရာရာကို ဆောင်ရွက်၍ အလွယ်တကူ မအောင်မြင်နိုင်။

## ထွေးပြီးသားတံထွေး ပြန်မျိုရိုးမရှိ

ထွေးပြီးသားတံထွေးကို ပြန်မျိုရိုးမရှိသကဲ့သို့ ပေးပြီးသားကတိကို ပြန်ရုပ်သိမ်းရရိုး မရှိ။

(စကားပုံ)

ထွက်ပြီးသားဆင်စွယ် ဝင်တယ်လို့မရှိ- နှင့်အတူတူ

## ခွေး ဖြူတော မတိုးဝံ့

ခွေးသည် ဖြူကောင်၏ ဆူးကို ကြောက်သဖြင့် ဖြူကောင်များ အကြားသို့ မသွားဝံ့သကဲ့သို့ ကြောက်ရွံ့တတ်သူသည် အခက်အခဲကို ရင်မဆိုင်ဝံ့ချေ။

(စကားပုံ)

## ချည်ပြာထဘီနှင့် ဝတ်ိလှမ်း

ချည်ပြာထဘီ ဝတ်ထားသူက တာဝတိံသာ နတ်ပြည်သို့ တက်ချင်သည် ဆိုသကဲ့သို့ မိမိနှင့် မတန်မရာကို မှန်းသည်။

(စကားပုံ)

## ခုတ်ရာတခြား၊ ရှရာတခြား။

ခုတ်သည်ကတစ်နေရာ၊ ရှသည်ကတစ်နေရာ လွဲချော်သကဲ့သို့ မိမိရည်ရွယ်ရင်းကတစ်မျိုး၊ တကယ်ဖြစ်လာသည်ကတစ်မျိုး အလွဲလွဲအချော်ချော် ဖြစ်သည်။

(စကားပုံ)

## နောက်အိပ်က အလျင် ပျော်

နောက်ကျမှ အိပ်သူက အလျင် အိပ်ပျော်နှင့်သကဲ့သို့ နောက်ကျသော်လည်း အခွင့်အလမ်းသာ၍ဖြစ်စေ၊ အကြံထူး ဉာဏ်ထူးသုံး၍ဖြစ်စေ အလျင်ဦးစွာ အောင်မြင် ပြီးမြောက်သည်။

(စကားပုံ)

## ခွေးရူးဖက်ကိုက် ခွေးကောင်းနားရွက်ပြတ်

ခွေးကောင်းသည် ခွေးရူးနှင့် ဖက်ပြိုင်၍ ကိုက်လျှင် နားရွက် ပြတ်ခံရသကဲ့သို့ လူကောင်းသည် လူမိုက်နှင့် ဖက်ပြိုင်လျှင် လူကောင်းသာ နစ်နာသည်။

(စကားပုံ)

# ထိုးမည့်ဆင် တစ်လှမ်းဆုတ် (စကားပုံ)

ထိုးမည့်ဆင်သည် အရှိန်ပြင်းစွာ ထိုးလိုသည့်အခါ အရှိန်ယူသည့်အနေဖြင့် ခြေတစ်လှမ်း ဆုတ်သကဲ့သို့ လုပ်ငန်းတစ်ခု အစွမ်းကုန် အရှိန်အဟုန်ဖြင့် ဆောင်ရွက်လိုသည့်အခါ အားယူရန် အခိုက်အတန့်အားဖြင့် အရှိန်လျှော့သည်။

"စစ်ဆိုသည်မှာ ငြိမ်လွန်းလျှင် စိုးရိမ်ရမြဲ ဖြစ်သည်။ ထိုးမည့်ဆင် နောက်တစ်လှမ်းဆုတ်ဟုလည်း အဆိုရှိသည်။"

## နွားပျိုသန်လှ နွားအိုပေါင်ကျိုး (စကားပုံ)

ပျိုငယ်သောနွား သန်မာလှသည်ဆိုစေကာမူ ခိုင်းသားရပြီးဖြစ်သော ပေါင်ကျိုးနေသည့် နွားအို၏ သန်မာမှုမျှလောက်သာ ရှိသကဲ့သို့ လူငယ်၏ အစွမ်းသည် ဝါရင့်သောလူကြီး၏အစွမ်းကို မကျော်လွန်နိုင်။

"အမြော်အမြင်ဉာဏ်နှင့် ကြံဖန်လုပ်ကိုင်တဲ့အရာမှာတော့ လူပျိုထက် တစ်ပဲ သာပါသေးတယ်။ နွားပျိုသန်လှ နွားအိုပေါင်ကျိုးဆိုတာ မကြားဖူးဘူးလား။"

## ခြင်းကြားနှင့် ရေသယ်

ခြင်းကြားဖြင့် ရေကိုသယ်သည်ဆိုသကဲ့သို့ ယိုပေါက်ဟာပေါက်များစွာနှင့် လုပ်ကိုင်ရှာဖွေသည်။

(စကားပုံ)

## နေသေးသပ ချုံထဲက၊ ချိုသွေးသပ တမြမြ။

အားမတန်သေးသဖြင့် ချုံထဲ၌ ပုန်းအောင်းရင်း ချို သွေးနေသော ကျွဲနွားစသည် သတ္တဝါများ ကဲ့သို့ အားမတန်သေးသဖြင့်သိုသပ်စွာ စောင့်ဆိုင်းနေရင်း ရင်ဆိုင်ရန် အသင့်ပြင်ဆင်နေသည်။

"တစ်မိုးအောက်ပငေး၊ အဘသွေးဟာမို့၊ နေသေးသပ ချုံထဲက၊ ချိုသွေးသပ တမြမြ၊ ငါ နယ်ပိုင်နှင့် မျက်နှာ ချင်းဆိုင်ရလျှင်. . . "

မြန်မာစကားပုံ

# အနာပေါ် တုတ်ကျ (စကားပုံ)

အနာရှိသည့်နေရာကို တုတ်ဖြင့် အရိုက်ခံရလျှင် မခံမရပ်နိုင်အောင် နာကျင်သကဲ့သို့ လိပ်ပြာမလုံဖြစ်နေသည့် အားနည်းချွတ်ယွင်းချက်ကို ထုတ်ဖော်ထိပါးပြောဆိုခံရလျှင် ဆတ်ဆတ်ခါအောင်နာသည်။

မြန်မာစကားပုံ

## အစားမတော် တစ်လုတ်၊
## အသွားမတော် တစ်လှမ်း။

အစားမတော်လျှင် တစ်လုတ်တစ်ဆုပ်စားရုံ၊ အသွားမတော်လျှင် ခြေတစ်လှမ်း လှမ်းရုံဖြင့် အန္တရာယ်ဖြစ်နိုင်သကဲ့သို့ အလုပ်အကိုင် တစ်ချက်မှားရုံဖြင့် အန္တရာယ် ဖြစ်နိုင်သည်။

(စကားပုံ)

## ခေါင်းသွား အမြီးပါ

ခေါင်းသွားလျှင် အမြီးပါရစမြဲ ဖြစ်သကဲ့သို့ လုပ်ငန်းတစ်ခုတွင် ရှေ့က ဦးစီးခေါင်းဆောင်ဖြစ်သူ ပါဝင်ပါတ်သက်ပါက နောက်လိုက်ငယ်သားများလည်း အလိုလို ပါဝင်ပြီးဖြစ်သွားသည်။

(စကားပုံ)

# ဓားမထက် ဓားသွားကျောက် အပြစ်တင်

ဓားသွေးမတတ်၍ ဓား မထက်သည်ကို ဓားသွေးကျောက်အပေါ် အပြစ်လွှဲချသကဲ့သို့ မိမိအသုံးမကျသည်ကို မိမိအပြစ်ဟု မမြင်ဘဲ သူတစ်ပါးအပေါ်သာ အပြစ်လွှဲချသည်။

(စကားပုံ)

## ချက်ဆိုနားခွက်က မီးတောက်

သေနတ်မောင်းခလုတ်ကို ချက်ခနဲ ဖြုတ်လိုက်သည်နှင့် တစ်ပြိုင်နက် နားခွက်မှ မီးပွင့်သကဲ့သို့ အရိပ်အခြည်ကိုမြင်သည်နှင့် တပြိုင်နက် ချက်ချင်းသဘောပေါက်သည်။

(စကားပုံ)

နားခွက် = ရှေးခတ်မီးပေါက်သေနတ်တွင် ယမ်းထည့်ရသည့်ခွက်။

## နေနှင့်လ ရွှေနှင့်မြ

နေနှင့်လ၊ ရွှေနှင့်မြသည် လိုက်ဖက်တင့်တယ်သကဲ့သို့ ချစ်သူဇနီးမောင်နှံနှစ်ဦးသည် လိုက်ဖက်တင့်တယ်သည်။

(စကားပုံ)

# ခွေးဟောင်၍ တောင်ပို့ မပြေး

ခွေးသည် တောင်ပို့ကို မည်မျှပင် ဟောင်နေစေကာမူ တောင်ပို့သည် မရွေ့သကဲ့သို့ မလိုမုန်းတီးသူများက မည်မျှပင် ရှုတ်ချ ပြောဆိုကြစေကာမူ ဖြောင့်မှန်သူသည် မတုန်လှုပ်ချေ။

(စကားပုံ)

# ခွေးကလေးအရောဝင် ပါးလျက်နားလျက်

ခွေးကလေးကို အရောဝင်ပါက ပါးနားမရှောင် လျက်သကဲ့သို့ မသိတတ်သူကို အရောဝင်ပါက လူရှေ့သူရှေ့ မရှောင် အရှိအသေတန်သည်။

(စကားပုံ)

## နဂါးပြည် နဂါး၊ ဂဠုန်ပြည် ဂဠုန်

နဂါးပြည်တွင် နဂါးမင်းမူ၍ ဂဠုန်ပြည်တွင် ဂဠုန်မင်းမူ သကဲ့သို့ သူ့နေရာတွင်သူ ကိုယ့်နေရာတွင်ကိုယ် တွင်ကျယ်ကြသည်။

ဂဠုန်ပြည် ဂဠုန်၊ နဂါးပြည် နဂါး - နှင့် အတူတူ။

(စကားပုံ)

## ခရု ခါးတောင်းကျိုက်ဖမ်း (စကားပုံ)

ခရုငယ်ကို အလွယ်တကူ ကောက်ယူရုံမျှနှင့် ရနိုင်ပါလျှက် ပုဆိုးခါးတောင်းကျိုက်၍ အင်းတိုက် အားတိုက် ဖမ်းဘိသကဲ့သို့ အလုပ်တစ်ခုကို အလွယ်တကူ ပြီးနိုင်ပါလျက် မလိုအပ်ဘဲ အကျယ်ချဲ့ကာ ပင်ပန်းကြီးစွာခံ၍ လုပ်ကိုင်သည်။

# ဘုရားပြီး ငြမ်းဖျက်။ (စကားပုံ)

စေတီဘုရားပုထိုးတည်ရာ၌ ဖြစ်စေ ပြုပြင်ရာ၌ ဖြစ်စေ ငြမ်းဆင်၍ လုပ်ကိုင်ရသော်လည်း လုပ်ငန်းကိစ္စပြီးမြောက်သည့်အခါ ငြမ်းကို ဖျက်သကဲ့သို့ ကိစ္စတစ်ခု အောင်မြင်ပြီးမြောက်သွားသည့်အခါ အောင်မြင်အောင် ဆောင်ကြဉ်းပေးခဲ့သူအား ပစ်ပယ်သည်။

# နွားကွဲ ကျားကိုက်

နွားအုပ်ကွဲလျှင် ကျားကိုက်ခံရသကဲ့သို့ အချင်းချင်း မညီမညွတ်ဖြစ်လျှင် ရန်သူ့ အနှိပ်အစက် ခံရသည်။

နွားကွဲ ကျားဆွဲ- ဟုလည်း အသုံးရှိသည်။

(စကားပုံ)

## ဒူးနေရာ ဒူး၊ တော်နေရာ တော်

မြန်မာမင်းများ ညီလာခံသဘင် ကျင်းပရာ၌ တော်နေရာ၊ ဒူးနေရာ စသည့် နေရာငါးသွယ်ရှိရာ ခံစားသူများသည် မိမိ အဆင့်အတန်းအလိုက် သတ်မှတ်ထားသည့် နေရာမှသာ ခစားရသကဲ့သို့ မိမိ အဆင့်အတန်းနှင့် လျော်ကန်အောင် ပြောဆိုဝတ်စား နေထိုင်ရသည်။

(စကားပုံ)

## မျိုးစေ့မမှန် ပင်မသန် (စကားပုံ)

မျိုးကောင်းမျိုးသန့်မဟုတ်သော မျိုးစေ့မှပေါက်လာသော အပင်သည် သန်သန်စွမ်းစွမ်း ဝေဝေဆာဆာ မရှိသကဲ့သို့ မျိုးရိုးဗီဇ ညံ့ဖျင်းသူသည် ထူးချွန်ပေါက်မြောက်ခြင်း မရှိပေ။

## ခွေးကြီးမှ လက်ပေးသင်

ခွေးကို ငယ်စဉ်က လက်ပေးမသင်ဘဲ ကြီးမှ သင်သကဲ့သို့ အရွယ်ကောင်းစဉ်က သင်ထိုက်သော အတတ်ပညာကို မသင်ခဲ့ဘဲ အရွယ်လွန်ခါမှ သင်သည်။

(စကားပုံ)

## နဂါးတို့မျက်စောင်း အကြောင်းမရွေး

ဒေါသဖြင့် အကြည့်ခံရသော သူကို ပြာကျသွားစေသည်ဆိုသော နဂါးတို့၏ ဒေါသမျက်စောင်းသည် အကြောင်း ဟုတ်မဟုတ် မရွေးချယ်သကဲ့သို့ တန်ခိုးအာဏာကြီးတို့၏ အမျက်သည် အကြောင်းမရွေးချေ။

(စကားပုံ)

## နွားခေါင်း ကျည်ပွေ့တွေ့

နွားနကို ကျည်ပွေ့ဖြင့် ထိခိုက်မိသကဲ့သို့ အကျပ်အတည်းနှင့် ဒုက္ခကောင်းကောင်း ကြုံရသည်။

(စကားပုံ)

# မြစ်ကြီးတော့ ရေစီးသာသည်

ကြီးမားသော မြစ်သည် ရေအပြင် ကျယ်ပြန့်သဖြင့် ရေစီး ညင်သာသကဲ့သို့ ပညာကြီးမားသူသည် သဘောထားပြည့်ဝသဖြင့် သိမ်မွေ့နူးညံ့သည်။

(စကားပုံ)

## နွားမ ရွှံ့ပိတ်ရောင်း

နွားမကို နွားထီးဟု ထင်ရအောင်ပြုပြင်၍ လိမ်လည် လှည့်စားရောင်းချသကဲ့သို့ မိမိ အလိုမရှိသော၊ အပြစ်အနာရှိသောအရာကို အကောင်းထင်ရအောင် ပြုပြင် ဖန်တီး၍ လိမ်လည် လှည့်စားကာ အစွံ့ ထုတ်သည်။

(စကားပုံ)

## ခုရေတွင်းတူး၊ ခုရေကြည်သောက်ချင်။

ရေတွင်းတူးပြီးလျှင်ပြီးချင်း ရေကြည်ကို သောက်ချင်သကဲ့သို့ လုပ်ငန်းဆောင်ရွက်ပြီးနောက် သင့်လျော်သော အခါကာလထိအောင် မစောင့်ဆိုင်းနိုင်ဘဲ ချက်ချင်း အကျိုးခံစားချင်သည်။

(စကားပုံ)

## မျက်နှာသာပေး ရွှေရေးပန်းကန်တက်။

ငါးပိဖုတ်ကို လိုလားကြောင်းပြသည့်အခါ စလောင်းပေါ် နေရမည့် ငါးပိသည် ရွှေရေးပန်းကန်ပေါ် ရောက်လာ သကဲ့သို့ အသိအလိမ္မာ နည်းသူကို မျက်နှာသာပေးမိ သောအခါ ကမ်းတက်သည်။

"ငါးပိဖုတ် မျက်နှာသာပေး ရွှေရေးပန်းကန်တက် တတ်တယ်တဲ့ ပြောလိုက်တာ။ ခုတော့ . . ဆွမ်းတော်ခွက်ပေါ်တောင် တက်နေ ပါပေါ့လား။"

မြန်မာစကားပုံ

## ခရီးထွင်လို့ ရွာစဉ်မသိ (စကားပုံ)

ခရီးပေါက်ခဲ့သော်လည်း လမ်း၌ မည်သည့်ရွာများကို ဖြတ်သန်းလာခဲ့မှန်း မသိသကဲ့သို့ လုပ်ငန်းသာ ပြီးဆုံး သွားသော်လည်း မိမိ ဆောင်ရွက်ခဲ့သော လုပ်ငန်းအကြောင်းကို ကောင်းစွာ မသိဘဲရှိသည်။

မြန်မာစကားပုံ

မြန်မာစကားပုံ

## ထမင်းတစ်လုတ် တုတ်တစ်ချက်

ထမင်းတစ်လုတ် စားရဖို့အတွက် တုတ်ဖြင့် တစ်ချက် အရိုက်ခံရသကဲ့သို့ အနည်းငယ်သော အကျိုးအတွက် အကျိုးနှင့်မမျှသော ဆင်းရဲဒုက္ခကို အရင်းအနှီး ပြုရသည်။

(စကားပုံ)

## မီးမလောင်မီက တား (စကားပုံ)

မီးကိုလောင်မှ ငြိမ်းသတ်သည်ထက် မလောင်မီက တားဆီးကာကွယ်ရသကဲ့သို့ အန္တရာယ်ကို ကျရောက်မှ ဖြေရှင်းသည်ထက် မကျရောက်မီက ကြိုတင်ကာကွယ်ထားရသည်။

## ပေါ့စေလိုလို့ ကြောင်ရုပ်ထိုး ဆေးအတွက်လေး

ကြောင်ကဲ့သို့ ပေါ့စေရန် ကြောင်ရုပ်ပုံ ဆေးမင်ကြောင်ထိုးရာ၌ မပေါ့သည့်အပြင် ဆေးထိုးသည့်ဒဏ်ခံရ၍ ကိုယ်လက်လေးလံသွားသကဲ့သို့ တစ်စုံတစ်ရာ အကျိုးကို မျှော်ကိုး၍ ပြုလုပ်ရာတွင် အကျိုးမရသည့်အပြင် အကျိုးပင် ယုတ်လျော့ရသည်။

(စကားပုံ)

## နွားသိုး ကြိုးပြတ် (စကားပုံ)

ချည်နှောင်သောကြိုး ပြတ်သွားသည်နှင့် နွားသိုးသည် ထိန်းမနိုင် သိမ်းမရဖြစ်သကဲ့သို့ အထိန်းအကွပ်မှ လွတ်သွားသောအခါ စွဲလမ်းရာရာ အာရုံနောက်သို့ လိုက်၍ ထိန်းမနိုင်သိမ်းမရ ဖြစ်သည်။

## ပါးကိုက် နားကိုက် (စကားပုံ)

ပါးကို ကိုက်သဖြင့် တုန့်ပြန်၍ နားကို ကိုက်သကဲ့သို့ ထိပါးလာသဖြင့် တုန့်ပြန်သည်။

"ပါးကိုက်လျှင် နားကိုက် ဆိုသော စကားကဲ့သို့ လင်ယောက်ကျ်ားကို ပြန်လှန်ပြီး ခုခံရန်ပွား အမျက်ဒေါသထားနေပါလျှင်"

မြန်မာစကားပုံ

## မင်းသားမလုပ်ရလို့ ပတ်မကြီး ထိုးဖောက်

ဇာတ်ပွဲတွင် မင်းသားကြီး မလုပ်ရသောကြောင့် ဖျက်လိုဖျက်ဆီးသဘောဖြင့် ပတ်မကြီးကို ထိုးဖောက်သကဲ့သို့ မိမိ လူထွင်ကျယ် မလုပ်ရသဖြင့် ဖျက်လိုဖျက်ဆီး ပြုမူသည်။

(စကားပုံ)

## ခိုးတတ်မှ ယိုးတတ်သည် (စကားပုံ)

ခိုးတတ်သူသည် သူတစ်ပါးအား သူခိုးအဖြစ် ယိုးစွပ်တတ်သကဲ့သို့ မဟုတ်မတရား ပြုလုပ်တတ်သူသည် သူတစ်ပါးလည်း မဟုတ်မတရား ပြုလုပ်လိမ့်မည်ဟု အထင်ရှိတတ်သည်။

## ယောင်းမ ခါးထိုးရှာ

ယောင်းမကို ခါး၌ ထိုးထားပြီး လိုက်ရှာသကဲ့သို့ မိမိ၏ အနီးအပါးတွင် ရှိနေလျက် သတိမမူဘဲ ခက်ခက်ခဲခဲ ရှာဖွေသည်။

(စကားပုံ)

# ပေါက်တဲ့နဖူး မထူး (စကားပုံ)

နဖူးပြင် လူမြင်ကွင်းတွင် ပေါက်ပြဲ ဒဏ်ရာရသူသည် ယင်းအမာရွတ်ကို မနှစ်သက်သော်လည်း အကြောင်း မထူးသည့်အတူတူ လက်ခံ၍ နေသွားရုံသာရှိသကဲ့သို့ ပြန်ပြင်၍မရနိုင်သော ကိစ္စတစ်ခု ဖြစ်သွားပြီးမှ ဖြစ်ပြီးသည့်အတိုင်း လက်ခံ၍ နေသွားရုံသာ ရှိသည်။

## ဓားခုတ်ရာ လက်လျှို

ဓားခုတ်ရာတွင် ဝင်၍ လက်လျှိုသကဲ့သို့ သူတစ်ပါး၏
ပြဿနာတွင် ဒုက္ခရောက်ချင်၍ ဝင်ပါသည်။

(စကားပုံ)

## ဘုရားသော်မှ အမှီရှိမှ ပွင့်

မြတ်စွာဘုရားပင်လျှင် အမှီပြုရာ ဗောဓိပင်ရှိမှ ပွင့်တော်မူရသကဲ့သို့ အမှီကောင်းရှိမှ ချောမော အောင်မြင်သည်။

(စကားပုံ)

## နှီးရာဓား ကြောက်ရ (စကားပုံ)

ဓားချင်းတူသော်လည်း မိမိအနားတွင်ရှိသော ဓားကို ပိုကြောက် ရသကဲ့သို့ အန္တရယ် ပေးနိုင်သူချင်း တူသော်လည်း မိမိအား လက်ငင်း အန္တရယ်ပေးမည့် သူကို ပို၍ကြောက်ရသည်။

## မြက်မြက်ကလေး စားချင်လို့ ဆိုင်းထဲလိုက်၊ နှဲကြီးနင်းမိလို့ လျှော်ရ။

မြိုးမြိုးမြက်မြက် စားရမည် စိတ်ကူးဖြင့် ဆိုင်းအဖွဲ့သို့ ဝင်ခဲ့ရာ နှဲကို တက်နင်းမိသဖြင့် မစားရခင် လျှော်လိုက်ရသကဲ့သို့ အကျိုးရှိမည်ထင်၍ လုပ်ဆောင်ရာတွင် အကျိုးမရှိဘဲ အရှုံးနှင့်သာ ရင်ဆိုင်ရသည်။

(စကားပုံ)

## မြွေပူရာ ကင်းမှောင့်

မြွေပေါ်များရာတွင် ကင်းကပါ နှောင့်ယှက်ပြန်သကဲ့သို့ ပူပန်စရာများ တွေ့ကြုံနေရာတွင် နောက်အပူတစ်မျိုးက ဝင်ရောက် နှောင့်ယှက်ပြန်သည်။

(စကားပုံ)

## မြေနိမ့်ရာ လှံစိုက်

မြေနိမ့်ရာတွင်မှ လှံကို စိုက်သကဲ့သို့ နိမ့်ပါးသူကိုမှ ဖိစီးနှိပ်စက်သည်။

(စကားပုံ)

## ခါချဉ်ကောင် မာန်ကြီးလို့ တောင်ကြီးဖြိုမည့်ကြံခါးကမသန်

ကိစ္စကြောင်းရာ တစ်ခုကို အင်းတိုက် အားတိုက် လုပ်ဆောင်ရန် ကြံစည် ကြိုးပမ်း သော်လည်း အကြောင်းခံ အားနည်းမှုကြောင့် မစွမ်းနိုင်ဖြစ်ရသည်ကို ဆိုလိုသည်။

# ခေါင်းတုံးပေါ် ထိပ်ကွက်

ခေါင်းတုံး ရိတ်ထားသည့် အပေါ်၌ ထပ်ဆင့်၍ ထိပ်ကွက်သည်ဆိုသကဲ့သို့ သူတစ်ပါး အပေါ်၌ လျှင်သလို အမြတ်ထုတ် လုပ်တတ်သူကို သူထက် လျှင်သူက အမြတ်ထုတ်သွားသည်။

(စကားပုံ)

## နောက်လာတဲ့ မောင်ပုလဲ ဒိုင်းဝန်ထက်ကဲ

ဒိုင်းဝန်ကို ဆိုးလှပြီဟု ထင်မှတ်နေရာတွင် နောက်ရောက်လာသည့် မောင်ပုလဲက ဒိုင်းဝန်ထက် ပိုဆိုးနေသကဲ့သို့ နောက်ရောက်လာသူက အလျှင်လူထက် ပိုမို ဒုက္ခပေးသည်။

(စကားပုံ)

## နွားတစ်ဖက်ကောင်းသော်လည်း ချောင်းမတက်နိုင်

လှည်းတွင် နွားတစ်ဖက်က ကောင်းသော်လည်း ကျန်တစ်ဖက်က မကောင်းလျှင် ချောင်းမှ ကမ်းပါးသို့ အတက်လမ်းကို မတက်နိုင်သကဲ့သို့ နှစ်ဦးနှစ်ဖက် ပူးပေါင်းဆောင်ရွက်ရာတွင် ဘက်မညီက အကျပ် အတည်း အခက်အခဲများကို မကျော်လွှားနိုင်။

(စကားပုံ)

## ခွေးတောက်မြစ်ယှက်၊ စိုက်ရောဖက်က သရက်ပင်မင်း၊ သီးချိုကင်း၏။

ခွေးတောက်မြစ်နှင့် သရက်ပင်အမြစ်တို့ ရောယှက်စိုက်သဖြင့် သရက်သီးတွင် အချိုအရသာကင်းပြီး အခါးအရသာ ဖြစ်လာသကဲ့သို့ နီးစပ်ရာ ဓလေ့စရိုက် ကူးစက်တတ်သည်။

(စကားပုံ)

## နွားပေါ် အစွံထုတ်

ခိုးရာပါနွားကို မစွံစွံအောင် ရောင်းချသကဲ့သို့ အပြစ်အနာအဆာ မကင်းသော အရာကို မိမိလက်မှ အမြန်ဆုံးထွက်အောင် ကြိုးပမ်းသည်။

(စကားပုံ)

## ခံဆူး ခံချွန်၊ ဆီးဆူး ဆီးချွန်။

ခံဆူး၊ ဆီးဆူးတို့သည် သဘာဝအလျောက် ချွန်လာသကဲ့သို့ အချို့သူတို့သည် ဗီဇအလျောက် အလိုလို ထူးချွန်လာကြသည်။

(စကားပုံ)

## မက်လုမက်လုနှင့် လင်း

တောင့်တနေသော အိပ်မက်ကောင်း တစ်ခုကို စောင့်မျှော်ရင်း မက်လုမက်လုနှင့် မိုးလင်းသွားသကဲ့သို့ မျှော်လင့်တောင့်တသည့် အရာတစ်ခုကို ဖြစ်နိုးဖြစ်နိုးနှင့် စောင့်မျှော်ရင်း ဖြစ်နိုင်သည့် အခွင့်အလမ်း ကုန်ဆုံးသွားသည်။

(စကားပုံ)

## ပိုးသာကုန် မောင်ပုံ စောင်းမတတ်

ပိုးသာကုန်၍ မောင်ပုံ စောင်းမတတ်သကဲ့သို့ အချိန်၊ လုပ်အား၊ ဥစ္စာတို့သာကုန်၍ ဖြစ်မြောက်အောင် အကျိုးမရ ဖြစ်သည်။

(စကားပုံ)

## ပို့မည့်ပို့ ကူးတို့ရောက်အောင်ပို့

ပို့ပေးပါမည်ဟု ဝန်ခံပြီး ပို့ပေးသည်ဆိုလျှင် ခရီးသည်သွားလိုရာ ကူးတို့ဆိပ်သို့ ရောက်အောင် ပို့ပေးရသကဲ့သို့ ဆောင်ရွက်ပေးမည်ဟု ဝန်ခံပြီး အကူအညီပေးရာတွင် ဆုံးခန်းတိုင်အောင် ဆောင်ရွက်ပေးရာသည်။

(စကားပုံ)

## နငယ် အမြီးတပ်

ရေးထားသော နငယ်ကို မလိုဘဲလျက် အမြီးရှည်ရှည် ပြင်ဆွဲသကဲ့သို့ ပြီးစီးပြီးဖြစ်သော လုပ်ငန်းတစ်ခုတွင် မလိုဘဲလျက် ဝင်ကွန့်သည်။

(စကားပုံ)

## နေဝင်မှ စပါးလှန်း

နေဝင်မှ စပါးလှန်းသကဲ့သို့ လုပ်ရမည့်အလုပ်ကို အချိန်လွန်မှ ပြုလုပ်သည်။

မိုးသောက်မှ ကြက်တင်၊ နေဝင်မှ စပါးလှန်း -ဟုလည်း တွဲသုံးလေ့ရှိသည်။

(စကားပုံ)

## ထင်းခွေမကြုံ ရေခပ်ကြုံ

ထင်းခွေသည့်အခါတွင် မကြုံရသော်လည်း ရေခပ်သည့်အခါတွင် ကြုံကြိုက်ရသည်ဆိုသကဲ့သို့ တစ်ချိန်မဟုတ်တစ်ချိန်၊ တစ်လှည့်မဟုတ် တစ်လှည့် ကြုံဦးမည်။

(စကားပုံ)

## နွားကြော့ဆိုလေ ချုံတိုးလေ

နွားကို ကြော့ပေ့ မော့ပေ့ဟု ချီးမွမ်းလေ နွားက ချုံထဲတိုးလေ ဖြစ်သကဲ့သို့ အထင်တကြီး ချီးမွမ်းလေ မဖွယ်မရာ ပြုမူလေဖြစ်သည်။

(စကားပုံ)

## ပျားတစ်စက်ကြောင့် ပြည်ပျက်

ပျားရည်တစ်စက်ကြောင့် တိုင်းပြည်ပျက်သည် ဆို-သကဲ့သို့ သေးငယ်သောအမှုကို မဖြေရှင်းနိုင်လျှင် ပိုမို ကြီးထွားလာတတ်ပြီး ကြီးမားသော ပျက်စီး ဆုံးရှုံးမှုနှင့် ကြုံရသည်။

(စကားပုံ)

## နွားငတ် ရေကျ (စကားပုံ)

ရေငတ်သောနွားကို ရေချလိုက်သောအခါ အငမ်းမရ သောက်သကဲ့သို့ မက်မောတောင့်တသောအရာကို မြင်လိုက်သောအခါ အငမ်းမရဖြစ်သည်။
နွားငတ် ရေချ -ဟူ၍လည်း အသုံးရှိသည်။

"နွားငတ် ရေချ ဆိုသော စကားမျိုးကဲ့သို့ အလွန် နှစ်သက်ဖွယ်ဖြစ်သော အာရုံနှင့် တွေ့ကြုံလျှင် ဆွေ့ဆွေ့ခုန် လှုပ်ရှား၍ နေကြကုန်၏။"

## နွားပိန်ထူ လူဗွေ့ (စကားပုံ)

နွားပိန်ကို သနား၍ ထူထောင်ပေးလိုက်ရာ ထူထောင်ပေးသူကို ပြန်ဗွေ့သကဲ့သို့ ဒုက္ခဖြစ်နေသူကို သနား၍ စောင့်ရှောက်မိရာ စောင့်ရှောက်သူကိုပင် ပြန်၍ ဒုက္ခပေးသည်။

## ခဲလေသမျှ သဲရေကျ

သဲထဲကျသောရေသည် အချည်းနှီးဖြစ်သကဲ့သို့ အားခဲမျှော်မှန်းထားသမျှသည် အကျိုးမရှိ အချည်းနှီးဖြစ်ရသည်။

(စကားပုံ)

## ယုန်မရ တောကျေ (စကားပုံ)

ယုန်လိုက်ရာတွင် ယုန်မရသော်လည်း တောကျွမ်းသွားသကဲ့သို့ မူလရည်မှန်းသည့်အကျိုး မရသော်လည်း အခြားနှီးနွယ်နေသော အကျိုးတစ်ရပ်ကို ရရှိသည်။

## ပါးစပ်က ဘုရားဘုရား၊
## လက်က ကားရားကားရား။

ပါးစပ်က ဘုရားဘုရားဟု ရွတ်ဆိုနေသော်လည်း ဘုရားတရားနှင့် မဆီလျော်သော အလုပ်များ ပြုလုပ်နေသကဲ့သို့ နှုတ်က လူလေးစားအောင် အသံကောင်းဟစ်နေသော်လည်း လက်တွေ့၌ မဖွယ်မရာ အလုပ်များ လုပ်နေသည်။

(စကားပုံ)

## ပွဲပြီး မီးသေ (စကားပုံ)

အလှူမင်္ဂလာစသည့် ပွဲကျင်းပနေစဉ် မီးရောင်တို့ဖြင့် ထိန်ထိန်လင်းလင်း ရှိသော်လည်း ပွဲပြီးသွားသည့် အခါတွင်မူ မှောင်နှင့်မည်းမည်းဖြစ်၍ တိတ်ဆိတ် ငြိမ်သက်သွားသကဲ့သို့ ကိစ္စတစ်ခုကို ဆောင်ရွက်ရာ တွင် စိတ်ပါတုန်းသာ တက်တက်ကြွကြွရှိပြီး နောင်- တွင် ပြီးပြီးပျောက်ပျောက် ဖြစ်သွားသည်။

ပါးစပ်ဟ အူမ မြင် (စကားပုံ)

ပါးစပ်ဟရုံနှင့် အူမကို မြင်သည်ဆိုသကဲ့သို့ ပြောစကားကို ကြားလိုက်ရုံနှင့် ထိုသူ၏ သဘောထားကို သိမြင်သည်။

## ခွေးရူး ကောင်းစား တစ်မွန်းတည့်

ခွေးရူးသည် သက်ဆိုးမရှည်နိုင်သကဲ့သို့ လူဖျင်း လူမိုက်တို့သည် ကောင်းစားလျှင် တစ်ခဏတာမျှသာ ဖြစ်သည်။

(စကားပုံ)

## ဒူးလောက်တင်မှ ရင်လောက်ကျ။

သားကောင်ကို လက်နက်ဖြင့် ချိန်ရွယ်၍ ပစ်ခတ်ရာတွင် ရင်ဒူးနေရာသို့ မှန်း၍ ပစ်မှ ရင်ဘတ်ကို မှန်နိုင်သကဲ့သို့ အလုပ်လုပ်ရာတွင် ပို၍ ရည်မှန်းထားမှ သင့်ရုံကျသည်။

(စကားပုံ)

ဒူး (ရင်ဒူး) - တိရစ္ဆာန်၏ ရင်ညွန့်တွင် နံရိုးနှစ်ဖက်ဆုံရာ အရိုးနု (ရင်နုရိုးဟုလည်း ခေါ်သည်။)

## ခွေးကျိုးနဲ့ ယုန်လိုက် (စကားပုံ)

ယုန်ကို ခြေကျိုးနေသောခွေးနှင့် လိုက်လံဖမ်းသကဲ့သို့ မလွယ်ကူသော ကိစ္စတစ်ရပ်ကို ချို့ယွင်းချက်၊ အားနည်းချက်များနှင့် လုပ်ဆောင်သည်။

## ချိတ်ချိတ်ချင်းမှ ချိတ်လို့ရ

ချိတ်ချိတ်ချင်းမှ ချိတ်မိသကဲ့သို့ မမှန်ကန်သူ အချင်းချင်းသာ ငြိကြသည်။

(စကားပုံ)

ခေါင်က မိုးမလုံလျှင် တံစက်မြိတ်လည်း မလုံနိုင်

အိမ်ခေါင်ကြောင်းက မိုးမလုံလျှင် တံစက်မြိတ်လည်း လုံမည်မဟုတ်သကဲ့သို့ လူကြီးမိဘအုပ်ထိန်းသူများ စည်းကမ်းပျက်လျှင်လက်အောက်ငယ်သား သားသမီးများ စည်းကမ်းမကောင်းနိုင်။

(စကားပုံ)

## နည်းအမျှ များအဝ (စကားပုံ)

စားစရာနည်းလျှင် နည်းသည့်အလျောက် မျှတအောင် ဝေငှစားကြ၍ များလျှင်မူ များသည့်အလျောက် ဝလင်အောင် စားကြရသကဲ့သို့ ရရှိသည့် ဥစ္စာပစ္စည်း အခွင့်အရေး စသည်တို့ကို နည်းလျှင်နည်းသည့် အလျောက် မျှတခံစား၍ များလျှင် များသည့် အလျောက် အပြည့်အဝ ခံစားကြရသည်။

## နွားခလောက်မြည်ပေမဲ့ နှမ်းမရ

နှမ်းခင်းမှ နွားခလောက်မြည်သံကို ကြားကြားနေရသော်လည်း နှမ်းမထွက်သကဲ့သို့ အလုပ်တစ်ခုကို လုပ်ကိုင်နေသည်ဟုဆိုသော်လည်း အကျိုးရလဒ်ပေါ်မလာဘဲရှိသည်။

(စကားပုံ)

## ခြသေ့်မင်းရှေ့ ယုန်သငယ် မသန်းဝံ့

ခြသေ့်မင်း၏ ရှေ့မှောက်တွင် ယုန်သငယ်သည် ဖြတ်သန်းမသွားဝံ့သကဲ့သို့ အရှိန်အဝါကြီးမားသူအား အရှိန်အဝါနည်းပါးသူက ကြောက်ရွံ့ခန့်ညားသည်။

(စကားပုံ)

## ပွဲမင်းလည်း ငွေမှား၊
## ဆေးသမားလည်း သားသေ။

ပွဲမင်းပင်ဖြစ်သော်လည်း အကဲဖြတ်မှားသည့်အခါ ရှိသည်။ သမားတော်ကြီး ဖြစ်သော်လည်း မိမိသား၏ အသက်ကို မကယ်နိုင်သည့်အခါမျိုးလည်း ရှိသည်။ ထို့အတူ အလွန် ကျွမ်းကျင်သူ ဖြစ်သော်လည်း မှားယွင်းသည့် ကိစ္စ၊ မတတ်စွမ်းနိုင်သည့် ကိစ္စမျိုး ရှိသည်။

(စကားပုံ)

## ပတ္တမြားတစ်ခြည် ဆန်တစ်ပြည်

ပတ္တမြားလက်စွပ်တစ်ကွင်းကို ဆန်တစ်ပြည်နှင့် တန်းတူ တန်ဖိုးထားသကဲ့သို့ တန်ဖိုးရှိသောအရာကို တန်ဖိုးမရှိသောအရာနှင့် တန်းတူ တန်ဖိုးထားသည်။

ခြည် = အကွင်းအဝန်းဖြစ်သော လက်ကောက်၊ လက်စွပ်တို့ကို ရေတွက်ရာတွင် သုံးသောစကားလုံး

(စကားပုံ)

# နှုတ်ခမ်းမွေးမနိုင်ဘဲ ပဲကြီးဟင်းသောက်ချင်

မိမိနှုတ်ခမ်းမွေးကို မနိုင်ဘဲ ပဲကြီးဟင်းကို သောက်လျှင် ပဲကြီးဟင်းလူး၍ အကြည့်ရ အမြင်ရဆိုးသည်။ သို့ပါလျက် ပဲကြီးဟင်းကို သောက်ချင်သကဲ့သို့ မိမိ မကျွမ်းကျင် မနိုင်နင်းသော အလုပ်ကို လုပ်ချင်သည်။

(စကားပုံ)

## ဖင်မနိုင်ဘဲ ပဲကြီးဟင်းသောက်

ဝမ်းမနိုင်ဘဲနှင့် ပဲကြီးဟင်း သောက်သကဲ့သို့ မိမိ မကျွမ်းကျင် မနိုင်နင်းသော အလုပ်ကို လုပ်သည်။

(စကားပုံ)

# အိမ်လာ ယာဆုတ်

လူနေအိမ်များ တိုးချဲ့လာသည်နှင့်အမျှ ယာမြေများ လျော့ပါး ဆုတ်ယုတ်လာသကဲ့သို့ တစ်ဖက်က တိုးချဲ့နေရာယူလာသည်နှင့်အမျှ တစ်ဖက်က ဆုတ်ယုတ် ကွယ်ပျောက်သွားသည်။

(စကားပုံ)

## နတ်တို့ဖန် ရေကန်အသင့် ကြာအသင့်

နတ်တို့၏ တန်ခိုးဖြင့် ဖန်ဆင်းလျှင် ရေကန်နှင့်တကွ ကြာပင်များပါ ပြည့်စုံစွာ အသင့်ပေါ်ပေါက်လာသကဲ့သို့ ကုသိုလ်ကံက ဖန်တီးပေးသူများအတွက် အရာရာ ပြည့်စုံစွာ အသင့်ဖြစ်နေသည်။

(စကားပုံ)

## ထန်သမားအဖို့ ထန်းရို့က ထွက်

ထန်သမား၏ ဝမ်းရေးအတွက် ထန်းရို့က ထန်းရည် ထွက်ပေးနေသကဲ့သို့ လူတစ်ယောက်၏ စားဝတ်နေရေးအတွက် သူ၏ အကြောင်းကံက သင့်လျော်အောင် ဖန်တီးပေးသည်။

(စကားပုံ)

## ပျံ့လေတဲ့ငှက်ခါး နားခါမှသိစိမ့်

ပျံ့နေစဉ် ပစ်ရန် ခက်ခဲသော ငှက်ခါးကို နားခါမှ သိစိမ့်မည်ဟူသကဲ့သို့ အခွင့်မသာ၍ လက်လျှော့လိုက်ရသော်လည်း အခွင့်သာသည်နှင့် တစ်ပြိုင်နက် အကြောင်းသိသွားစိမ့်မည်။

(စကားပုံ)

## ဒီပုတ်ထဲက ဒီပဲ။ (စကားပုံ)

ပဲတစ်မျိုးတည်းထည့်ထားသော ပုတ်ထဲမှ ထိုပဲမျိုးသာ ထွက်လာသကဲ့သို့ သည်အစု၌ ပါဝင်သူဟူသမျှသည် သည်စရိုက်လက္ခဏာမျိုးသည် ရှိသူဖြစ်သည်။

“မိန်းမဟူသည်၊ ယေဘုယျချည်း၊ ထိုနည်းမလွဲ၊ သည်ပုတ်ထဲက သည်ပဲမျိုးသာ၊ ဆိုပမာတည့်၊”

## ပြင်လွန်း ဖင်ချွန်း

အိုးလုပ်ရာတွင် စိတ်တိုင်းမကျတိုင်း ပြင်သဖြင့် အိုးဖင် ချွန်းသွားသကဲ့သို့ စိတ်မကျေနပ်တိုင်း ပြင်လွန်းက ပုံပျက်ပန်းပျက် ဖြစ်ရသည်။

(စကားပုံ)

## ရောင်တော်ပြန်နှင့် ရောကျွတ်

ရောင်တော်ပြန်လွှတ်ရာတွင် သတ္တဝါများ အကျွတ်တရားရနိုင်ကြသည် မဟုတ်ဘဲလျက် ထိုရောင်တော်ပြန်နှင့် ရောနှော၍ အကျွတ်တရားရသည်ဟု ပြောဆိုသကဲ့သို့ အခွင့်ကောင်းတစ်ခုနှင့် သက်ဆိုင်အကျိုးဝင်ခြင်း မရှိဘဲလျက် ပတ်သက်ဆက်စပ်လေဟန် ပြုမှုပြောဆိုသည်။

(စကားပုံ)

# ခွေးဟောင်တိုင်း ထကြည့် အိပ်ရေးပျက်

ညဥ့်အခါ ခွေးဟောင်တိုင်းသာ သူခိုးလာသည် အမှတ်ဖြင့် ထထကြည့်နေလျှင် အိပ်ရေးပျက်ခြင်းသာ အဖတ် တင်မည်ဖြစ်သကဲ့သို့ ပတ်ဝန်းကျင် ပြောသမျှကို အလေးအနက်ထားလွန်းလျှင် အလုပ် ပျက် သည်သာ အဖတ်တင်သည်။

(စကားပုံ)

## လင်လိုတုန်း နားပဲ့

အိမ်ထောင်ပြုချင်စိတ်နှင့် လူချင်ပချင် ဖြစ်နေစဉ်တွင် အလှအပ တန်ဆာဆင်ရမည့် နားက ပဲ့သည် ဆိုသကဲ့သို့ တစ်စုံတစ်ရာ ပြုလုပ်ရန် ထက်သန်တက်ကြွနေစဉ် မိမိ၌ အကြောင်းမညီမညွတ် ဖြစ်လာသည်။

(စကားပုံ)

## ပိုနေမြဲ ကျားနေမြဲ

မောင်ပိုနှင့် ကျားသည် မူလနေမြဲအတိုင်း ဖြစ်သွား
ကြသကဲ့သို့ မူလအနေအထားကို မပြောင်းလဲဘဲ နဂို
နေမြဲအတိုင်း ရှိနေသည်။

(စကားပုံ)

## ရှိသာခိုး အငြိုးနှင့်

အခြေအနေအရ မတတ်သာ၍ ရှိခိုးဦးချကန်တော့ရသော်လည်း ဝမ်းတွင်းက အငြိုးထားလျက် ရှိသကဲ့သို့ အခြေအနေအရ လေးစားရှိသေနေရသော်လည်း ဝမ်းတွင်းက အငြိုးအတေးထားလျက် ရှိသည်။

(စကားပုံ)

# ထွက်ပြီးသောဆင်စွယ် ဝင်တယ်လို့မရှိ

ထွက်ပြီးသော ဆင်စွယ်သည် ပြန်ဝင်ရိုးမရှိသကဲ့သို့ သူတော်ကောင်းတို့သည် ဆိုပြီးသောစကားကို ဖျက်သိမ်းရိုးမရှိ။

(စကားပုံ)

## ပုံလုံတစ်လှည့် ငါးဖျံတစ်လှည့်

ချောင်းငယ်၊ မြောင်းငယ်များတွင် မျှောပါနေသော ပုံလုံသီးနှင့် ပုံလုံသီးပေါ် တက်ခိုနေသော ငါးဖျံတို့သည် သူတစ်ပြန် ငါတစ်ပြန် အထက်အောက် တစ်လှည့်စီ ဖြစ်နေသကဲ့သို့ တစ်သမတ်တည်း အထက်စီးရသည်ဟုမရှိဘဲ သူက အသာရသည့်အလှည့်ရှိသလို ကိုယ်က အသာရသည့်အလှည့်လည်း ရှိသည်။

(စကားပုံ)

## နှမ်းတစ်လုံးနှင့် ဆီမဖြစ် (စကားပုံ)

နှမ်းတစ်စေ့ကို ကြိတ်ရုံဖြင့် ဆီမဖြစ်နိုင်သကဲ့သို့ စုပေါင်းအင်အား လိုသောနေရာတွင် တစ်ခုကောင်း၊ တစ်ယောက်ကောင်းနှင့် အရာမရောက်နိုင်ပေ။

## ပင်လယ်ထဲ မိုးရွာ

ရေရှားပါးသောအရပ်တွင် မိုးမရွာဘဲ ရေပေါများသောအရပ်တွင် မိုးရွားဘိသကဲ့သို့ ရှားပါးချို့ငဲ့သူကို ထောက်ပံ့ခြင်း မပြုဘဲ ပေါများပြည့်စုံသူကို ဖြည့်ဆည်းထောက်ပံ့သည်။

ရေများရာ မိုးရွာနှင့်- အတူတူ။

(စကားပုံ)

# ဖိတ်ချင်းဖိတ် ကိုယ့်အိတ်ထဲဖိတ်

ပစ္စည်းတစ်စုံတစ်ရာ ဖိတ်စဉ်မည်ဆိုပါက ဘေးသို့ ဖိတ်ကျမည့်အစား မိမိအိတ်တွင်းသို့သာ ဖိတ်စေချင်သကဲ့သို့ အခွင့်အရေး တစ်စုံတစ်ရာ ပေါ်ပေါက်ပါက တခြားသူရမည့်အစား မိမိနှင့်ပတ်သက်ရာ အသိုင်းအဝန်းထဲကသာ ရစေချင်သည်။

(စကားပုံ)

## မမြင်ဖူး မူး မြစ်ထင်

မြစ်ကို မမြင်ဖူးသဖြင့် မူးကိုပင် မြစ်ဟု မှတ်ထင်သကဲ့သို့ အတွေ့အကြုံမရှိသဖြင့် တန်ရုံသင့်ရုံမျှလောက်ကိုပင် အလွန်ဟုတ်လှပြီ မှတ်ထင်သည်။

မူး = ချောင်းငယ်၊ မြောင်းငယ်။

(စကားပုံ)

## ယုန်အကျိုး တောသိ၊ တောအကျိုး ယုန်သိ

ယုန်၏ အကျိုးအကြောင်း အဖြစ်သနစ်ကို တောက သိသလို တော၏ အကျိုးအကြောင်း အဖြစ်သနစ်ကို ယုန်က သိသည်ဆိုသကဲ့သို့ မကင်းနိုင်ကြသူနှစ်ဦး သည် တစ်ဦးအကျိုးအကြောင်း အဖြစ်သနစ်ကို တစ်ဦးက အပြန်အလှန် သိရှိထားကြသည်။

(စကားပုံ)

## ယုန်မရခင် သံပုရာရှာ

ယုန်မမိသေးခင် ယုန်သားနှင့် သုပ်စားရန် သံပုရာသီးရှာသည် ဆိုသကဲ့သို့ ဘာမျှ မရေရာသေးမီက တင်ကြို၍ မလိုအပ်သေးသော ပြင်ဆင်မှုကို ပြုလုပ်သည်။

(စကားပုံ)

# ပန်းထိမ်မတတ်ခင် ရွှေခိုးသင်

ပန်းထိမ်ပညာကို ကျွမ်းကျင်စွာ မတတ်မြောက်သေးခင် ရွှေခိုးနည်းတတ်ရန် အားထုတ်သကဲ့သို့ အလုပ်တစ်ခုကို ပိုင်နိုင်စွာမတတ်မီ လူလည်လုပ်ချင်သည်။

(စကားပုံ)

## ဖွဲ့ကိုထောင်းလို့ ဆန်ကောင်းမရ

ဖွဲ့ကြမ်း (စပါးခွံ)ကို ထောင်း၍ ဆန်မရနိုင်သကဲ့သို့ အလားအလာ မရှိသောသူကို မည်မျှပင် အားထုတ်၍ ပြုပြင်သွန်သင်စေကာမူ ထူးခြားကောင်းမွန်လာသူ ဖြစ်မလာနိုင်။

(စကားပုံ)

## ဖွတ်မရ ဓားမ ဆုံး

ဖွတ်လည်းမရ၊ ဓားမလည်းဆုံးသကဲ့သို့ ရည်မှန်းသည်ကို မရသည့်အပြင် ရင်းနှီးစိုက်ထုတ်ထားသမျှပါ ဆုံးရှုံးရသည်။

(စကားပုံ)

## အမြင်မတော် ဆင်တော်နှင့် ခလောက်

ဘုရင်စီးသည့် ဆင်တော်အား ခိုင်းကျွဲနွားကျွဲဆွဲသည့် ခလောက် ဆွဲပေး၍ အမြင်မတော် ဖြစ်ရသကဲ့သို့ အရာဌာနနှင့် လိုက်လျောညီစွာ မသုံးဆောင်သဖြင့် အမြင်မတော် ဖြစ်ရသည်။

(စကားပုံ)

## ပလ္လင်ဆင်း ငွေချေ

တရားဟောပြီးလျှင်ပြီးချင်း ဓမ္မကထိကများအား တရားပူဇော်ငွေ ပေးလှူရသကဲ့သို့ ပေးအပ်ထားသည့် လုပ်ငန်းတာဝန် ပြီးလျှင်ပြီးချင်း လုပ်အားခကို ချီးမြှင့်ရသည်။

(စကားပုံ)

## ချည်ပုဆိုးက ပိုးပေါင်ချင်

ချည်ပုဆိုး ဖြစ်နေပါလျက် ပိုးထည်နှင့် ရောချင်သည် ဆိုသကဲ့သို့ အစွမ်းအစ နည်းပါးသူက အစွမ်းအစ ပြချင်သည်။

(စကားပုံ)

## ပန်းကောင်း အညွန့်ချိုး

ပန်းမျိုးကောင်းကို အညွန့်မလူနိုင်အောင် ချိုးနှိမ်လိုက်သကဲ့သို့ အမျိုးကောင်း သားသမီးကို လူရာမဝင်အောင် အသရေကို ချိုးနှိမ်သည်။

(စကားပုံ)

## ယာဂုအိုးကွဲခါမှ ရွှေစည်းခုံလှူ

အိုးကွဲသွားသဖြင့် ယာဂုများ ယိုကျပြီး စွန့်ပစ်ရမည့် အခါတွင်မှ ရွှေစည်းခုံဘုရားအား ကပ်လှူပါသည် ဘုရားဟု ရွတ်ဆို လှူဒါန်းသည် ဆိုသကဲ့သို့ မိမိ အတွက် စွန့်ပစ်ရမည့် အခြေအနေရောက်ခါမှ သူတစ်ပါးအား အကောင်းလုပ်၍ ပေးကမ်းသည်။

(စကားပုံ)

## ချိန်တော့မိုး၊ ထိုးတော့မြေကြီး။

လုံ့ဖြင့် မိုးသို့ချိန်ရွယ်ပြီးမှ တကယ်ထိုးသောအခါ မြေကြီးကို ထိုးစိုက်သကဲ့သို့ ကြီးကြီးကျယ်ကျယ် ချိန်ရွယ်ပြီးမှ တကယ့်လက်တွေ့၌ အဖျားရှူး သွားသည်။

(စကားပုံ)

## နတ်သုဓာထဲ မစင်တစ်ပဲသားကျ

နတ်သုဓာဘုတ်ထဲတွင် မသတီစဖွယ် မစင်တစ်ပဲသား ပါရှိနေသကဲ့သို့ ထူးခြားသော အရည်အချင်းနှင့် ပြည့်စုံသောအရာတွင် မည်သို့မျှ ခွင့်မလွှတ်နိုင်သော ချွတ်ယွင်းချက် ပါရှိနေသည်။

(စကားပုံ)

# နွားကလေးနို့ နွားမကြီးစို့

နွားကလေးနို့ကို နွားမကြီးက စို့သည် ဆိုသကဲ့သို့ ဖြစ်မြဲသဘာဝနှင့် ဆန့်ကျင်ကာ လူငယ်များ၏ ဩဇာအကြံဉာဏ်ကို လူကြီးသူမများက ခံယူလိုက်နာနေရသည်။

(စကားပုံ)

## ဘကြီးလည်း မမီ၊
## ထီးတင်ပွဲလည်း မတွေ့။

ဘကြီးထံသွားရန်၊ ထီးတင်ပွဲသွားရန်းနှင့် ဘကြီးကိုလည်းကောင်း၊ ထီးတင်ပွဲကို လည်းကောင်း မမီလိုက်သောသူကဲ့သို့ ဆုံးဖြတ်ချက် မပြတ်သားသဖြင့် တစ်ခုမဟုတ်တစ်ခု ရရှိနိုင်ပါလျက် အခွင့်အရေးနှစ်ရပ်လုံး လက်လွတ်ဆုံးရှုံးရသည်။

(စကားပုံ)

မြန်မာစကားပုံ

## ပျားလည်း စွဲသာ၊ ရှဉ့်လည်း လျှောက်သာ

ပျားနှင့် ရှဉ့်တို့သည် သစ်ကိုင်းတစ်ကိုင်းတည်း၌ ပျားအုံလည်းဖွဲ့သာ၊ ရှဉ့်လည်း လျှောက်သာစေရာ သကဲ့သို့ ကိစ္စတစ်ရပ်၌ နှစ်ဖက်အကျိုး မျှတစေရာ သည်။

(စကားပုံ)

## ယုန်မရ တောကြေ (စကားပုံ)

ယုန်လိုက်ရာတွင် ယုန်မရသည့်အတူတူ တောပါ ပျက်စီးစေဟု သဘောထားသကဲ့သို့ မိမိ ရည်မှန်းထားသည်ကို မရသဖြင့် ပတ်သက်ရာ ပတ်သက်ကြောင်းကို ဖျက်ဆီးသည်။

## ယုန်က မတိုး၊ ပိုက်က တိုး

ယုန်ထောင်ထားသည့် ပိုက်ကို ယုန်က တိုးခြင်း မဟုတ်ဘဲ ယုန်ရှိရာသို့ ပိုက်က လာတိုးသည် ဆိုသကဲ့သို့ ယောကျ်ားလေးကစ၍ ချစ်ရေးဆိုရမည့် ထုံးစံနှင့် ပြောင်းပြန် မိန်းကလေးက စတင်သည်။

(စကားပုံ)

## ပတ္တမြားမှန်လျှင် နွံမှာနစ်သောလည်း မညစ်

ပတ္တမြားမှန်လျှင် နွံမှာနစ်သော်လည်း အရည်အရောင် မညစ်သကဲ့သို့ အရည်အချင်းရှိသူမှန်လျှင် မည်မျှပင် ချိုးနှိမ်စေကာမူ နိမ့်ကျမသွားပေ။

(စကားပုံ)

# နောက်ကျ နွားချေးနှင့်သလဲ

ရွှေကျားသည် ထမင်းစားနောက်ကျ၍ ထမင်းထုပ်ထဲ၌ နွားချေးနှင့်သလဲသာ တွေ့ရသကဲ့သို့ သူတကာထက် နောက်ကျသူသည် ရမည့် အခွင့်အရေးလက်လွတ်သည်။

(စကားပုံ)

## လှစေချင်လို့ သွားကြောင်တိုက် ရေစီးကမ်းပြိုလိုက်

လှချင်လွန်း၍ သွားကို မဖြူဖြူအောင်တိုက်ခါမှ သွားဖုံး ရေစီးကမ်းပြိုလိုက်ပြီး အရုပ်ဆိုးသွားသကဲ့သို့ ကောင်းစေလို၍ အထူးပြုလုပ်ခါမှ မကောင်းဘဲ ပို၍ ဆိုးသွားသည်။

(စကားပုံ)

## ဘူးဆိုလျှင် ဖရုံမသီး (စကားပုံ)

ဘူးပင်ဟုဆိုမှ ဖရုံသီးသီးရန် အကြောင်းမရှိ။ ထို့အတူ 'ဘူး' ဟု ငြင်းပယ်ပြီးမှ အခြားတစ်နည်း ပြင်ပြောရန် အကြောင်းမရှိ။

## ချောင်းရေလာ သဲကန်သင်းနှင့်ဆီး

အရှိန်အဟုန်ဖြင့် ကျလာသော ချောင်းရေကို မခိုင်ခံ့သော သဲကန်သင်းနှင့် တားဆီးသကဲ့သို့ ကြီးမားသော အမှုကိစ္စကို ပေါ့ပေါ့တန်တန် ဖြစ်ကတတ်ဆန်း လုပ်ဆောင်သည်။

(စကားပုံ)

## ဒီယုန်မြင်လို့ ဒီချုံထွင်

ချုံရှင်းလို၍ မဟုတ်ဘဲ ယုန်ရရန် မြော်မြင်ချက်ဖြင့် ချုံကို ခုတ်ထွင်ရှင်းလင်းဘိသကဲ့သို့ အလားအလာကို မြော်မြင်၍ အခြေအနေတစ်ရပ်ကို ဖန်တီးသည်။

(စကားပုံ)

သည်ယုန်မြင်လို့ သည်ချုံထွင်- နှင့်အတူတူ

## နဂိုရှိမှ နဂိုင်းထွက် (စကားပုံ)

နဂိုဟူသော စကားလုံးရှိမှသာ ငသတ် (င်) စသည် ဖြည့်ပြီး နဂိုင်းဟူ၍ ရေးနိုင်သကဲ့သို့ မူလအခြေခံ ရှိမှသာ မွမ်းမံချယ်သ၍ တင့်တယ်နိုင်သည်။

## ဒေါင်းတုလို့ စာသငယ်လှမ်း (စကားပုံ)

ဒေါင်း၏ခြေလှမ်းကို စာသငယ်က တုပ၍ လှမ်းသကဲ့သို့ မိမိနှင့် မတန်မရာကို တုပပြုမူသည်။

## ပစ်ရမှာလည်း အဆီနဲ့ ရဲရဲ၊
## စားရမှာလည်း သဲနှင့်ရှပ်ရှပ်။

သဲအလူးလူး ဖြစ်နေသော အသားတုံးကို စွန့်ပစ်ရန်လည်းအခက်၊ စားသုံးရန်လည်းအခက် ဖြစ်နေသကဲ့သို့ အပြစ်အနာအဆာရှိသော နှစ်သက်မက်မောဖွယ် အရာတစ်ခုကို ငြင်းပယ်ရန်လည်း အခက်၊ လက်ခံရန်လည်း အခ

(စကားပုံ)

# ခတ်ကွင်းပြင်တာနှင့် ရွာသစ်ကြီးရောက်

စစ်ကိုင်းဆိပ်မှ ဆန်တက်သည့်လှေသည် ခတ်ကွင်းကို ကြိုတင်ပြင်ဆင်မထားသဖြင့် မလှော်ခတ်နိုင်ဘဲ ခတ်ကွင်းပြင်ရင်း ရေစီးနှင့် မျောပါသွားရာ ရွာသစ်ကြီးတိုင် ရောက်သွားသကဲ့သို့ လုပ်ငန်းကို ကြိုတင် ပြင်ဆင်မထားသဖြင့် လုပ်ငန်းစရတော့မည့်အချိန်မှ ပြင်ဆင်မှုလုပ်ရင်း ခရီးမထွင် ဖြစ်ရသည်။

(စကားပုံ)

# မျောက် သစ်ကိုင်းလွတ် (စကားပုံ)

---

မျောက်သည် မိမိတွယ်ထားသော သစ်ကိုင်းကို လွှတ်၍ အခြားအကိုင်းသို့ ကူးရာတွင် အလှမ်းမမီဘဲ လွတ်ကျသကဲ့သို့ မူလမှီတွယ်ရာကို လက်လွှတ်၍ အခြားမှီတွယ်ရာကို လှမ်းရာတွင် မအောင်မြင်ဘဲ မှီတွယ်ရာလက်လွတ် ဆုံးရှုံးရသည်။

## ထောင်မြင် ရာစွန့်

ထောင်ဂဏန်းဖိုးမျှ အကျိုးအမြတ် ရမည်ကို မြင်သဖြင့် ရာဂဏန်းဖိုးမျှ စွန့်သကဲ့သို့ အကျိုးအမြတ်ကို မျှော်ကိုး၍ အနည်းငယ်မျှကို စွန့်သည်။

(စကားပုံ)

## မင်းသားဖြစ်မှ သံဆန်းပေါ်သည်

မိမိ မင်းသားအဖြစ် ဇာတ်ထဲလိုက်သည့်အခါတွင်မှ သံဆန်းသီချင်း ပေါ်လာသကဲ့သို့ မိမိ တာဝန်ယူရသည့်အခါတွင်မှ အခက်အခဲ အသစ်အဆန်းများ ပေါ်ပေါက်လာသည်။

(စကားပုံ)

## နည်းနည်းနှင့် ကျဲကျဲဝိုင်း

ဗိုလ်ပါအင်အား အနည်းငယ်မျှနှင့် ရန်သူ့စခန်းကို ခပ်ကျဲကျဲဝိုင်းရံ၍ လုပ်ကြံသကဲ့သို့ ရှိသည့်အင်အား အနည်းငယ်မျှဖြင့် လုပ်ငန်း ဖြစ်မြောက်အောင် လုပ်ဆောင်သည်။

(စကားပုံ)

# ဘူးနားပင်း ရေသွင်း၍မဝင် (စကားပုံ)

အပေါက်မရှိသော ဘူး၌ ရေထည့်ပါသော်လည်း မဝင်သကဲ့သို့ ခံယူလိုစိတ် မရှိသူအား မည်မျှ ဆုံးမပြောဆိုကာမူ နားမဝင်ဘဲ ရှိသည်။
ဝါးနားပင်း ရေသွင်း၍ မဝင်-နှင့် အတူတူ။

“လူသွပ်လူရိုင်း၊ လူရှုန့်ထိုင်းတို့၊ ရိုင်းရိုင်းပင်းပင်း၊
တရားသွင်းလည်း၊ ဘူးနားပင်းတွင်၊ ရေမဝင်သို့၊
နားပြင်မကြား၊ အလွတ်သွား၍၊ ကျွဲပါးစောင်းတီး”

ဘူးနားပင်း = အပေါက်မဖောက်ရသေးသော ဘူးသီးခြောက်။

မြန်မာစကားပုံ

ထိုင်နေ အကောင်းသား၊ ထသွားမှ ကျိုးမှန်းသိ။

ခြေကျိုးသူသည် ထိုင်နေလျှင် ခြေကျိုးမှန်းမသိသာဘဲ ထသွားမှ ခြေကျိုးမှန်း သိသာသကဲ့သို့ မလုပ်ဘဲနေလျှင် အကျိုးမယုတ်၊ လုပ်မိခါမှ အကျိုးယုတ်ရသည်။

(စကားပုံ)

## ဖားနိုင် ဖားစား၊ ငါးနိုင် ငါးစား။

ဖားက ကြီးလျှင် ငါးငယ်ကို စား၍ ငါးက ကြီးလျှင် ဖားငယ်ကို စားသကဲ့သို့ အင်အားကြီးလျှင် အနိုင်ရစတမ်း ဖြစ်သည်။

(စကားပုံ)

## ဝါးဆွေးကို ချွန်၍ မထက်

ဆွေးနေသော ဝါးကို ထက်အောင် ချွန်၍ မရသကဲ့သို့ ပင်ကိုယ်အရည်အချင်း မရှိသူကို အရည်အသွေး တက်လာအောင် ပြုပြင်၍ မရပေ။

(စကားပုံ)

# နောက်မှကင် အလျင်ကျက်

နောက်မှ ကင်သော်လည်း အလျင်ကျက်သကဲ့သို့ နောက်ကျသော်လည်း အခွင့်အလမ်း သာ၍ဖြစ်စေ၊ အကြံထူးဉာဏ်ထူး၍ဖြစ်စေ အလျင်ဦးစွာ အောင်မြင်ပြီးမြောက်သည်။

(စကားပုံ)

## နွားရှေ့ ထွန်ကျူး

နွားနောက်တွင်ရှိရမည့် ထွန်တုံးက နွားရှေ့သို့ ရောက်နေသကဲ့သို့ နောက်က လိုက်ရမည့် သားသမီး၊ တပည့်စသည်တို့က မိဘဆရာသမား တို့ကို ကျော်လွန်၍ ပြုမူပြောဆိုသည်။

(စကားပုံ)

## ဘူးလေးရာ ဖရုံဆင့်

ဘူးသီးဖြင့် လေးလံလျက်ရှိရာတွင် ဖရုံသီးထပ်ဆင့် ပြန်သကဲ့သို့ မူလကပင် တာဝန်လေးလျက်ရှိရာတွင် ဝန်ထုပ်တစ်ခု ထပ်ဆင့် တိုးပြန်သည်။

(စကားပုံ)

## နွားအို မြက်နုကြိုက်

နွားအိုသည် မြက်နုမြက်ညွန့်ကိုမှ ကြိုက်နှစ်သက်သကဲ့သို့ အိုကြီးအိုမနှင့် နုနုငယ်ငယ်လေးကိုမှ ကြိုက်သည်။

(စကားပုံ)

## ဖုတ်လေတဲ့ ငါးပိ ရှိတယ်လို့ မအောက်မေ့

ဖုတ်ထားသော ငါးပိကို ဟင်းတစ်မည်အဖြစ် စားရန် ရှိသည်ဟုပင် အမှတ်မထား၊ မအောက်မေ့သကဲ့သို့ မမှုလောက်ဟု ယူဆ၍ လုံးဝ အမှုမထားဘဲ နေသည်။

(စကားပုံ)

## နွားပိန် အသားထိုးကြည့်

ပိန်နေသောနွား ကျန်းမာဝဖြိုးလာလျှင် မည်သို့ရှိမည်ကို စိတ်ကူးဖြင့် ပုံဖော်ကြည့်သကဲ့သို့ ချို့တဲ့မှုများ ပပျောက်ပြီး ဖွံ့ဖြိုးလာပါက မည်သို့ရှိမည်ကို စိတ်ဖြင့် တွက်ဆကြည့်သည်။

(စကားပုံ)

## ပတ္တမြားတော်ဝင် ဂေါ်မစင်

တော်ဝင်သော ပတ္တမြားပင် ဖြစ်စေကာမူ ဂေါ်မကင်း နိုင်သကဲ့သို့ မည်မျှပင် တော်သူကောင်းသူ ဖြစ်စေ ကာမူ ချို့ယွင်းမှုနှင့် မကင်းနိုင်ချေ။

(စကားပုံ)

## မြင်းစီးလို့မှ အထီးမှန်း အမမှန်း မသိ။

မိမိစီးသော မြင်းကိုပင် အထီးမှန်း အမမှန်းမသိသကဲ့သို့ မိမိပြုလုပ်နေသောကိစ္စကိုပင် ကွဲကွဲပြားပြား မသိပေ။

(စကားပုံ)

## ယာရှင်ကို မျောက်မောင်း

ယာထဲသို့ ဝင်ရောက်စားသောက်နေသော မျောက်က ယာရှင်ကို မောင်းထုတ်သကဲ့သို့ မိမိ မပိုင်ဆိုင်သော အရာကို ပိုင်းစိုးပိုင်နင်း ပြုလုပ်ရှိသာမက ပိုင်ရှင်ကိုပင် ဒုက္ခပေးသည်။

(စကားပုံ)

# ခေတ်မသိ ဟတ္ထိ ယုန်ထင်

အကြောင်းမသိလျှင် ဆင်ကြီးကိုပင် ယုန်ငယ်ပမာ မှတ်ယူအထင်သေးသကဲ့သို့ ကျိုးကြောင်းသေချာ မသိက အထင်ကြီးရမှန်း မသိ ဖြစ်သည်။

ဟတ္ထိ - ဆင်

(စကားပုံ)

## မသိခေါက်ရက် အဝင်နက်

မျက်မမြင်တစ်ဦးသည် ဆူးခြောင့် ခလုတ် ထူပြောသော လမ်းကို သာယာသော လမ်းဟု ထင်မှတ်သဖြင့် ခြေထောက်ကို မဆဘဲ နင်းရာ ဆူးခြောင့်သည် နက်နက်ရှိုင်းရှိုင်း ဆူးဝင်သကဲ့သို့ ပညာမရှိသော လူမိုက်တို့သည် မကောင်းမှု ဒုစရိုက် ကျူးလွန်လျှင် ကမ်းကုန်အောင် ကျူးလွန်တတ်ကြသည်။

(စကားပုံ)

## ပြည်ညင်းလျှင် မင်းမခံနိုင်

တစ်တိုင်း တစ်ပြည်လုံး တညီတညွတ်တည်း သဘောညီလျှင် ဘုရင်လုပ်သူက လိုက်လျော ရသကဲ့သို့ နောက်လိုက်ငယ်သား အားလုံး တညီတညွတ်တည်း သဘောညီလျှင် ခေါင်းဆောင်များက လိုက်လျောရသည်သာ ဖြစ်သည်။

(စကားပုံ)

## ပဒိုင်းသီးလို ဆုပ်စူးစားရှူး

ပဒိုင်းသီးကို လက်ဖြင့် ဆုပ်ကိုင်လျှင် စူး၍ စားလျှင် ရှူးသကဲ့သို့ အကျပ်အတည်းမှ လွတ်မြောက်ရန် နည်းလမ်းရှာကြည့်သော်လည်း မည်သည့် နည်းလမ်းကမှ မသက်သာသည့် အခြေအနေ ဖြစ်နေရသည်။

(စကားပုံ)

# အမြီးစားဖက်၊ ခေါင်းစားဖက်။

ရသည့်သားငါးကို အမြီးနှင့် ခေါင်းပိုင်း နှစ်ပိုင်းပိုင်း၍ ဝေစားမျှစား ပြုကြသူကဲ့သို့ အကျိုးအမြတ်တစ်စုံတစ်ရာကို အချင်းချင်း ဝေစားမျှစားပြုကြရာ၌ အလိုတူအလိုပါ ဖြစ်ကြသည်။

(စကားပုံ)

## နေမြင့်လေ အရှူးရင့်လေ

နေမြင့်၍ ပိုပူလာလေလေ စိတ်မနှံ့သူများ ပို၍ စိတ်ဖောက်လာလေလေ ဖြစ်သကဲ့သို့ အချိန်ကြာမြင့်လေလေ ပိုဆိုးလာလေလေ ဖြစ်သည်။

(စကားပုံ)

## ချဉ်သီးပင်အောက် ချဉ်သီးရှာ

ချဉ်သီးပင်အောက်တွင် ချဉ်သီးရှာသည်ဆိုသကဲ့သို့ တစ်စုံတစ်ရာ ပေါများစွာ ထွက်ရှိသောအရပ် ဖြစ်ပါလျက် ထိုအရာ ရှားပါနေသည်။

(စကားပုံ)

# ဘုရားဖြစ်မည့်ကြဲ့ မာရ်နတ်က ကန့်လန့်

ဘုရားလောင်း ဘုရားဖြစ်ရန် အားထုတ်သည်ကို မာရ်နတ်က ဖျက်ဆီးဟန့်တားသကဲ့သို့ လုပ်ငန်းတစ်ခုခုကို ကြိုးစားဆောင်ရွက်၍ အောင်မြင်လုဆဲဆဲတွင် မလိုလားသူတချို့ ဖျက်ဆီးဟန့်တားနေသည်။

(စကားပုံ)

## အမယ်မှာသည့် ဆန်တခွဲ သုံးစိတ်နှင့်မလဲ

မိခင်က ဆန်တစ်ခွဲနှင့် လဲရန် မှာထားသည့်အရာကို လဲမည့်သူက ထိုထက်ပို၍ သုံးစိတ်ပေးသည်ကိုပင် မလဲသကဲ့သို့ မိမိ ပိုမို အကျိုးရှိမည်ကိုပင် မစဉ်းစားနိုင်ဘဲ တရားသေ ဆုပ်ကိုင်လုပ်ဆောင်သည်။

(စကားပုံ)

## ယုန် တောင်ပြေး၊ ခွေး မြောက်လိုက်

ယုန်က တောင်ဘက်သို့ ပြေး၍ ခွေးက မြောက်ဘက်သို့ လိုက်သကဲ့သို့ သွားရာက တခြား၊ လိုက်ရာက တစ်ပါး တလွဲစီ ဖြစ်နေသည်။

(စကားပုံ)

## အခုစာကလေးကြော်၊ အခုဆီထမင်း

အခု စာကလေးကြော်စားမည်ဟု ပြောပြီး အခု ဆီထမင်းစားမည်ဟု ပြောင်းလဲပြောပြန်သကဲ့သို့ အခု တစ်မျိုး၊ အခုတစ်မျိုး ပြောင်းလဲပြောဆိုပြုမူသည်။

(စကားပုံ)

## ချေအီး ချေလန့်

ချေသည် မိမိလေလည်သည့် အသံကိုပင် မိမိ ကြောက်လန့်သကဲ့သို့ စိုးရိမ်စရာ မဟုတ်သည်၌ အစိုးရိမ် လွန်သည်။

(စကားပုံ)

# မြို့ဝန်မင်းစောင်မမှ ထောင်ကျ။

အမှု၌ အပြစ်ဒဏ်သက်သာနိုးနှင့် မြို့ဝန်မင်းကို အားကိုးမိရာတွင် မြို့ဝန်မင်းကိုယ်တိုင် ကူညီစောင်မခါမှ ထောင်လုံးလုံးကျရသည်ဆိုသကဲ့သို့ သက်သာနိုးနှင့် အားကိုးရှာမိခါမှ ထိုသူ၏ လုပ်ဆောင်မှုကြောင့် ပို၍ ဆိုးဝါးသော အခြေအနေသို့ ရောက်ရသည်။

(စကားပုံ)

# ဗောင်းတော်ညိတ် စိတ်တော်သိ

ရှင်ဘုရင် ဗောင်းတော်ညိတ်ရုံမျှဖြင့် ဘုရင့်အလိုတော်ကို သိသကဲ့သို့ လူကြီးသူကြီးတို့ အရိပ်အကဲ ပြရုံဖြင့် ဆိုလိုသည်ကို သိသည်။

(စကားပုံ)

*ဗောင်းတော် = ရှင်ဘုရင်ပေါင်းသည့်ခေါင်းပေါင်း

## ရှဉ့်တစ်ကောင် မြားတစ်စင်း

ရှဉ့်တိုင်းလိုလို တစ်နေ့မဟုတ်တစ်နေ့ မြားတစ်စင်းစင်း သင့်နိုင်သကဲ့သို့ လူတိုင်းကိုယ်စီပင် တစ်နေ့မဟုတ်တစ်နေ့ ပြဿနာ တစ်မျိုးမျိုး ကြုံကြရသည်။

(စကားပုံ)

## အပ်နှင့်ထွင်ရမှာ ပုဆိန်နှင့်ပေါက်

အပ်နှင့် ထွင်ရမည့်ကိစ္စဖြစ်ပါလျက် ပုဆိန်နှင့် ပေါက်သကဲ့သို့ သိမ်သိမ်မွေ့မွေ့ ဖြေရှင်းနိုင်သော ကိစ္စဖြစ်ပါလျက် အကြမ်းပတမ်း ဖြေရှင်းသည်။

(စကားပုံ)

# ဖားတုလို့ ခရုခုန် အိုင်ပျက်ရုံ

သဘာဝအရ မခုန်နိုင်သော ခရုသည် ခုန်တတ်သော ဖားကို အရာမဟုတ်သည်၌ လိုက်၍ တုပခုန်မိရာ ဝယ် မိမိ မှီရာအိုင် ပျက်စီးခြင်းသာ အဖတ်တင် သကဲ့သို့ မိမိ၏ အရာမဟုတ်သည်၌ တုပယှဉ်ပြိုင် မိသဖြင့် မိမိနှင့်တကွ မိမိပတ်ဝန်းကျင် ပျက်စီးခြင်း သာ အဖတ်တင်သည်။

(စကားပုံ)

## ဘူးတောင်း နစ်၊ စောင်ခြမ်း ပေါ်။ (စကားပုံ)

ဘူးတောင်းက ရေတွင် နစ်၍ စောင်ခြမ်းက ရေတွင် ပေါ်သည်
ဆိုသကဲ့သို့ ထင်ပေါ်ရမည့်သူက တိမ်မြုပ်၍ မထင်ပေါ်ရမည့်သူက
ထင်ပေါ်နေသည်။

"ဘူးတောင်းနစ်လို့ စောင်ခြမ်းပေါ် ဆိုတဲ့ ကာလကြီးကလားဗျ။
တကယ့် ပညာတတ်တွေက အောက်ကျနောက်ကျ ဖြစ်နေရပြီး
ပညာတစ်ရွေးသား မတတ်တဲ့ကောင်က တွင်ကျယ်နေကြတယ်။"

ဘူးတောင်း - အများအားဖြင့် ရေထည့်ဆောင်ယူလေ့ရှိသော
ခေါင်းပွဘူးသီးခွံ။

စောင်ခြမ်း = မြေအိုးကွဲ အပိုင်းအစ

## ဈေးယိုခံနီးမှ ဈေးခံတွင်းပေါက်ရှာ

အခင်းသွားခါနီးမှ အိမ်သာ ကမန်းကတန်း ရှာသကဲ့သို့ လုပ်ဆောင်ရန် အချိန် အလွန်နီးကပ်ခါမှ ဖုတ်ပူမီးတိုက် ပြင်ဆင်သည်။

(စကားပုံ)

မြန်မာစကားပုံ

## မောင်မောင်ခေါ်လို့ ဗျာမထူး၊
## အောင်ကျော်ခေါ်မှ ဗျာထူး။

မောင်မောင်ဟု ယဉ်ယဉ်ကျေးကျေး လေးလေးစားစား ခေါ်စဉ်က မထူး၊ အောင်ကျော်ဟု နှိမ့်ချခေါ်မှ ထူးသကဲ့သို့ ပျော့ပျောင်းယဉ်ကျေးစွာ ဆက်ဆံစဉ်က အရေးတယူမပြု၊ ခပ်မာမာ ခပ်ရိုင်းရိုင်း ဆက်ဆံမှ အရေးတယူ ပြုဖော်ရသည်။

(စကားပုံ)

## ခါတ်တော်မှတ်လို့ ကိုးကွယ်ပါ၊ ကလပ်ပေါ်ရောက်မှ ကလိမ်စေ့မှန်းသိ။

ခါတ်တော်မှတ်၍ ကိုးကွယ်နေရာ အများကြည်ညိုနိုင်အောင် ကလပ်ပေါ်တင်ခါမှ ကလိမ်စေ့ဖြစ်မှန်းသိလာရသကဲ့သို့ သူတော်ကောင်းမှတ်၍ ကြည်ညိုနေရာ ချီးမြှောက်ကိုးကွယ်ခါမှ မသူတော်မှန်းသိရသည်။

(စကားပုံ)

## နည်းရောင်းများရောင်းတောင်းပြည့်။

နည်းနည်း ဝယ်လည်းရောင်း၊ များများ ဝယ်လည်း ရောင်း၊ ရောင်းဖန်များသော် ငွေထည့်ထားသော တောင်းပြည့်လာသကဲ့သို့ နည်းနည်းရလည်းစု၊ များများရလည်းစု၊ စုဖန်များလျှင် ပြည့်ဝကုံလုံ လာသည်။

(စကားပုံ)

# ဘူးသီးမှ အရိုးတော်။ (စကားပုံ)

ဘူးသီး သီးသည်ကိုမြင်မှ ဘူးစင်ပိုင်ရှင်ကို အမျိုးတော်သည်ဟု ဆွေမျိုးစပ်သကဲ့သို့ လိုချင်စရာ တစ်ခုခုကိုမြင်မှ ရင်နှီးအောင် မျက်နှာချိုသွေးသည်။

## လေဆင်ကြည့် ရွက်တိုက် (စကားပုံ)

ပင်လယ်၊ မြစ်၊ ချောင်းတို့၌ ရွက်လှေ၊ ရွက်သင်္ဘော တို့ဖြင့် ခရီးသွားလာသူများသည် လေအဆင်အပြင် လေတိုက်ပုံကို ကြည့်၍ ရွက်တိုက်သွားလာရသကဲ့သို့ အခြေအနေကိုကြည့်ကာ ပြုမူလုပ်ကိုင်သည်။

"လေဆင်ပုံကြည့်ပြီး ရွက်တိုက်ရမယ်ဆိုတဲ့ စကားလို လျှောက်လွှာများ ဘယ်လိုရေးသော်လည်း အကဲလေး ခတ်ပြီးအလုပ်ခန့်တာပေါ့"

မြန်မာစကားပုံ

## ပြောသံကြားနှင့် တရားနာ (စကားပုံ)

ကောန်ကေ မသိမမြင်ဘဲ ပြောသံကြားရုံနှင့် တရားနာရန်ရှိသည်ဟု အထင်နှင့် ရမ်းဆပြောဆိုသကဲ့သို့ ကိုယ်တိုင် မတွေ့မမြင်ရဘဲ အထင်နှင့် ရမ်းသမ်း ပြောဆိုသည်။

# ဘယ်သူသေသေ ငတေမာ ပြီးရော

မည်သူပင် သေသေ ငတေတစ်ယောက် ကျန်းမာဖို့သာ အရေးကြီးသည် ဆိုသကဲ့သို့ လူအများ မည်သို့ပင် ဖြစ်နေနေ တစ်ဦးတစ်ယောက် ကောင်းစားဖို့သာ ပမာန ဖြစ်သည်။

(စကားပုံ)

## ပျားရည်နှင့် ဝမ်းချ (စကားပုံ)

ပွေးကိုင်းဖြင့် ဝမ်းမနုတ်ဘဲ ပျားရည်ချိုချိုဖြင့် ဝမ်းသက်စေသကဲ့သို့ ချိုသာစွာ ပြောဆို နှစ်သိမ့်၍ မနှစ်မြို့ဖွယ်အရာကို လက်ခံအောင် နားချသည်။

## လူမင်းဘုန်းကြီး နတ်မင်းမနေနိုင်

လူမင်းဘုန်းကြီးက သိကြားမင်းပင် မနေနိုင်ဘဲ ကူညီမစသည်ဆိုသကဲ့သို့ ပြုခဲ့ဖူးသော ကောင်းမှုကံရှိသူအဖို့ ကူညီမစမည့်သူ ပေါ်လာရသည်။

(စကားပုံ)

## ပေဖြစ်လျှင်ခံ၊ တူဖြစ်လျှင်နှံ့။

သံတုံးသည် ပေဖြစ်သောအခါ အထုခံရသောအရာဖြစ်ပြီး တူဖြစ်သောအခါ ထုနှက်သည့်အရာဖြစ်သကဲ့သို့ အလှည့်မသာသည့်အခိုက် ငုံ့ခံရပြီး အလှည့်သာသည့်အခိုက် အနိုင်အထက် ပြုခွင့်ရသည်။

(စကားပုံ)

## ခေါးမ ထက် လက်ခကြီး

ပစ္စည်းတစ်ခု၏ မူလတန်ဖိုးထက် လက်ခက ပိုများသည်ဆိုသကဲ့သို့ အမှုကိစ္စတစ်ခုအတွက် ကုန်ကျသည့်စရိတ်မှာ ရလဒ်နှင့် မကာမိအောင် ကြီးမားလှသည်။

(စကားပုံ)

## အများ မိုးခါးရေသောက် သောက်မှ

အများ မိုးခါးရေသောက်လျှင် မိမိပါသောက်မှ အဆင်ပြေသည် ဆိုသကဲ့သို့ မိမိကိုယ်တိုင် မနှစ်ခြိုက်သော်လည်း အများနှင့် မဆန့်ကျင်အောင် အများနည်းတူ လုပ်ရသည်။

(စကားပုံ)

## ပေတစ်ပင်လုံး ဘုန်းကြီးယပ်တောင်

ပေတစ်ပင်၌ ရှိသမျှ ပေရွက်အားလုံးကို ဘုန်းကြီး၏ ယပ်တောင်ပြုလုပ်ရန်ဟု သဘောထားသကဲ့သို့ ပေါ်ပေါက်လာသည့် အခွင့်အရေးမှန်သမျှကို မိမိအတွက်သာဟု သဘောထားသည်။

(စကားပုံ)

## မြွေပွေး ခါးပိုက်ပိုက်

မြွေဆိုးကို ကိုယ်နှင့်နီးကပ်စွာ မွေးမြူသကဲ့သို့ အချိန်မရွေး အန္တရယ်ပေးနိုင်မည့်သူကို အတွင်းလူအဖြစ်ထားသည်။

(စကားပုံ)

## ဖားတုလို့ ခရုခုန်

သဘာဝအရ မခုန်နိုင်သော ခရုသည် ဖားကို လိုက်-တု၍ ခုန်ရန် အားထုတ်သကဲ့သို့ အရာမဟုတ်သည်၌ တုပယှဉ်ပြိုင်သည်။

(စကားပုံ)

## နှုတ်ခမ်းပဲ့ချင်း မီးမှုတ်

နှုတ်ခမ်းပဲ့သူ အချင်းချင်း ကူညီမီးမှုတ်ပေး၍ မီးမတောက်နိုင်သကဲ့သို့ မစွမ်းဆောင်နိုင်သူ အချင်းချင်း ပူးပေါင်းလုပ်ဆောင်၍ အရာမရောက်နိုင်။

(စကားပုံ)

## လှိုင်းကြီးလှေအောက်၊ တောင်ကြီးဖဝါးအောက်

လှိုင်းလုံးတို့သည် မည်မျှပင်ကြီးမားစေကာမူ လှေ၏အောက်သို့ရောက်ရသည်။ တောင်တို့သည် မည်မျှပင်မြင့်မားစေကာမူ တောင်တက်သူတို့၏ဖဝါးအောက်ရောက်ရသည်။ ထို့အတူ အခက်အခဲတို့သည် မည်မျှပင်ကြီးမားစေကာမူ ကြိုးစားအားထုတ်မှုအောက်၌ ပပျောက်သွားရသည်။

(စကားပုံ)

## အသွေးမြင် အသွင်သိ

အပွေးမြင် အပင်သိ
နှင့် အတူတူ

(စကားပုံ)

## ပွဲမဝင်ခင် ပြင်ကကျင်းပ (စကားပုံ)

ပြိုင်ပွဲ၊ ကပွဲမဝင်မီ ကြိုတင်လေ့ကျင့်ပြင်ဆင်ထားရသကဲ့သို့ အမှုကိစ္စကို မဆောင်ရွက်မီကပင် ကြိုတင်လေ့ကျင့်ပြင်ဆင်ရသည်။

မြန်မာစကားပုံ

## ပါးပိန်ရာ နံ့သာ ဖို့မရ

ပိန်နေသော ပါးကို နံ့သာဖြင့် ဖို့သော်လည်း ပြည့်ဖောင်းမလာနိုင်သကဲ့သို့ အမှန်တကယ်ရှိနေသော ချို့ယွင်းချက်ကို ဖုံးဖိ၍ မရနိုင်။

(စကားပုံ)

## ရှင်ပြုတုန်းက ရွှေထီးဆောင်း (စကားပုံ)

မင်းဖြစ်၍ ရွှေထီးဆောင်းရခြင်းမဟုတ်၊ ရှင်ပြုတုန်း အခိုက်အတန့်မျှ ရွှေထီးဆောင်းခဲ့ဖူးခြင်းသာ ဖြစ်သကဲ့သို့ အစဉ်ထာဝရ ကောင်းစားခဲ့ခြင်း မဟုတ်ဘဲ အခိုက်အတန့် ကောင်းခဲ့ဖူးခြင်းသာ ဖြစ်သည်။

## ရောက်သမျှဘေးဒဏ် ပုဏ္ဏားခံ

ရောက်သမျှဘေးဒဏ်ကို ပုဏ္ဏားက ခံရသည်ဆိုသကဲ့သို့ ပေါ်ပေါက်လာသည့် ဆိုးကျိုးမှန်သမျှကို တစ်ဦးတစ်ယောက်တည်းက စု၍ ခံရသည်။

(စကားပုံ)

## မြင်ဖန်များ ငယ်၊ နမ်းဖန်များ ပြယ်

အလွန်ကြီးမားသောအရာပင်ဖြစ်စေ မြင်ဖန်များလျှင် ရိုးအီသွားပြီး ကြီးသည်ဟု မထင်တော့သကဲ့သို့ လည်းကောင်း၊ အလွန်မွှေးသော ပန်းပင်ဖြစ်စေ နမ်းဖန်များလျှင် ရိုးသွားပြီး မွှေးသည်ဟု မထင်တော့ သကဲ့သို့လည်းကောင်း အလွန်ချစ်ခင်လေးစားသူပင် ဖြစ်စေ ထိတွေ့ဆက်ဆံဖန်များလျှင် ရိုးသွားပြီး တန်ဖိုးထားမှု လျော့ပါးသည်။

စကားပုံ

## အမာရွတ်မြင်တိုင်း မပဟော်သတိရ

ကေဝင့်ပုဏ္ဏားသည် နဖူးမှ အမာရွတ်ကို မြင်တိုင်း မပဟော်သဓာအား မကျေမချမ်း ဖြစ်သကဲ့သို့ နာကြည်းဖွယ်အတိတ်ကို သတိရစရာ ပေါ်ပေါက်တိုင်း နာကြည်းအောင် လုပ်ခဲ့သူကို မကျေမချမ်း ဖြစ်ရသည်။

(စကားပုံ)

## ပါးပုတ်၍ လက်ဝှက်သည် (စကားပုံ)

ပါးကို ပုတ်၍ ကိုယ်မလုပ်လေဟန်နှင့် လက်ကိုဝှက်၍ နေသကဲ့သို့ အမှုတစ်ခုကို ပြုလုပ်ပြီးနောက် မိမိ မပြုလေဟန် မသိကျိုးကျွန်ပြု၍ နေသည်။

သခွားစား၍ ဖရုံပြသည် - နှင့် အတူတူ။

“ပါးပုတ်၍ လက်ဝှက်သကဲ့သို့ သခွားစား၍ ဖရုံပြ သောဟူသကဲ့သို့ ငါမသိ ငါမပါ၊ ငါမသိ ငါမကြား ဟူ၍”

## မိုးရွာတုန်း ရေခံ

မိုးရွာစဉ် ရေခံရသကဲ့သို့ အခြေအနေပေးခိုက် လုံ့လစိုက်၍ အခွင့်အရေးကို ရယူရသည်။

(စကားပုံ)

# ပြည်ပန်းညို့ ချိုပါလျက် ဆားကမြက်

ပြည်ပန်းညိုဟင်းချိုသည် မူလအရသာ ချိုပါလျက် ဆားစွက် လွန်ကဲသဖြင့် အရသာ ပျက်သွားရသကဲ့သို့ မူလက ပြေလည်နေပါလျက် ဘေးမှ စွက်ဖက်သဖြင့် မပြေမလည် ဖြစ်ရသည်။

(စကားပုံ)

# ရေမြင့် ကြာမြင့် (စကားပုံ)

ရေမျက်နှာပြင် မြင့်တက်သည်နှင့်အမျှ ကြာပင်က လည်း မြင့်တက်ဘိသကဲ့သို့ မှီခိုရာ အဆင့်အတန်း မြင့်မားလာသည်နှင့်အမျှ မှီခိုသူများလည်း အခြေ အနေ မြင့်မားလာသည်။
(ရေမြင့် ကြာတင့် - ဟူ၍လည်း အသုံးရှိသည်။)

## ပင်လယ်ကို ယုန်ငယ် မထောက်နိုင်

နက်ရှိုင်းသော ပင်လယ်ကို ယုန်ငယ် ခြေမထောက်နိုင်သကဲ့သို့ နက်နဲကျယ်ပြန့်သောအရာကို ပညာနုံ့သူ အလှမ်းမမီနိုင်။

(စကားပုံ)

မြန်မာစကားပုံ

# မျောက်သားစားချင်
# မျောက်မျက်နှာ မကြည့်နှင့်

မျောက်သားကို စားချင်၍ စားတော့မည်ဟု ဆုံးဖြတ်လျှင် မျောက်၏ သနားစရာကောင်းသော မျက်နှာကို ကြည့်မနေပါနှင့်။ ထို့အတူ လုပ်လိုသော ကိစ္စကို လုပ်တော့မည်ဟု ဆုံးဖြတ်လျှင် ငဲ့ညှာထောက်ထား စရာများကို ငဲ့ကွက်မနေပါနှင့်။

(စကားပုံ)

မြန်မာစကားပုံ

## မသိသူကျော်သွား၊ သိသူဖော်စား။

အဖိုးတန်ရတနာ ရှိမှန်းမသိ၍ တစ်ဦးက ကျော်သွားသော်လည်း သိသူက ထုတ်ဖော်ရယူသကဲ့သို့ အခွင့်အရေး အတူတူရှိပါလျက် အသိပညာမဲ့သူက မိမိအတွက် အကျိုးရှိအောင် အသုံးမချနိုင်ဘဲ အသိပညာရှိသူကသာ မိမိအတွက် အကျိုးရှိအောင် ထုတ်ဖော် အသုံးချနိုင်သည်။

(စကားပုံ)

## ဘုရားကားအောက်၊ မျောက်ကားအထက်

ဘုရားဆင်းတုတော်က နိမ့်ရာတွင်ရှိပြီး မျောက်က မြင့်ရာတွင် ရောက်နေသကဲ့သို့ ဂုဏ်သိက္ခာကြီးသူက နိမ့်ရာတွင် ရောက်နေပြီး ဂုဏ်သိက္ခာငယ်သူက မြင့်ရာတွင် ရောက်နေသည်။

(စကားပုံ)

## ယုန်ကျူးချည်၊ ခွေးကျူးချည်

ယုန်ကို ခွေးကလိုက်ရာတွင် ယုန်က ရှေ့ကပြေး၍ ခွေးက နောက်ကလိုက်သည့်အခါ ရှိသကဲ့သို့ ယုန်က တုံ့လိုက်သဖြင့် ခွေးသည် အရှိန်လွန်၍ ရှေ့ရောက်သွားသည့်အခါလည်း ရှိသည်။ ထို့အတူ အပြိုင်ဖြစ်နေသူနှစ်ဦးသည် အပြတ်အသတ် မကွာဘဲ သူသာသည့်အခါသာ၊ ကိုယ်သာသည့်အခါသာ ဖြစ်နေသည်။

(စကားပုံ)

## ပတ္တမြားကောင်းလျှင် အမျက်မလွတ်

အလွန် အဖိုးတန်သော ပတ္တမြားဖြစ်ပါလျက် အပြစ် အနာအဆာ အနည်းငယ် ပါနေသကဲ့သို့ အရည်အသွေး အလွန်ကောင်းပါလျက် ချို့ယွင်းချက် အနည်းငယ် ရှိနေသည်။

(စကားပုံ)

# ဘတစ်ပြန် ကျားတစ်ပြန် (စကားပုံ)

အဘနှင့်ကျား ထွေးလုံးသတ်ပုတ်ရာတွင် သူတစ်ပြန် ကိုယ်တစ်ပြန် ဖြစ်နေသည်ဆိုသကဲ့သို့ နှစ်ဦးနှစ်ဖက် ယှဉ်ပြိုင်ရာတွင်လည်း ကိုယ်တစ်ပြန် သူတစ်ပြန် အကြိတ်အနယ် ဖြစ်နေသည်။

“အာရုံငါးပါး လိုက်စားနေကြတဲ့ ကာမဂုဏ် လက်ဝှေ့ သမားတို့သည် ဘတစ်ပြန်၊ ကျားတစ်ပြန် စကားဟန် ပုံတနှုန်းကဲ့သို့ ထွေးလုံးရစ်ပတ် နပန်းသတ်ကာ”

မြန်မာစကားပုံ

## ပုစွန်ဆိတ်ငယ်သော်လည်း ပင်လယ်ကူးနိုင်သည်။

ပုစွန်ဆိတ်သည်အလွန်သေးငယ်သော်လည်း ပင်လယ်ကို ကူးနိုင်သကဲ့သို့ အသက်အရွယ်ငယ်ရွယ်သူ ဖြစ်သော်လည်း ကြီးမားသော အမှုကိစ္စကို ဆောင်ရွက်နိုင်သည်။

(စကားပုံ)

## ပြဒါးတစ်လမ်း သံတစ်လမ်း

အင်္ဂရိုဏ်ထိုးရာ၌ ပြဒါးသေလမ်းစဉ်နှင့် သံသေလမ်းစဉ်တို့သည် တသီးတခြားစီ ဖြစ်သကဲ့သို့ တစ်ခုနှင့်တစ်ခု၊ တစ်ဦးနှင့်တစ်ဦး မည်သို့မျှ မသက်ဆိုင်လောက်အောင် ကွဲပြားခြားနားသည်။

(စကားပုံ)

## ဘုန်းကြီး စာချ

စာပေအရာ၌ ကျွမ်းကျင်တတ်မြောက်ပြီးဖြစ်သော ရဟန်းတော်အား စာပို့ချသည် ဆိုသကဲ့သို့ တစ်စုံတစ်ရာ၌ ကျွမ်းကျင်လိမ္မာပြီးသူအား ဆရာလုပ်သည်။

(စကားပုံ)

## အရိုးကို အရွက်မဖုံးစေနှင့်

အရိုးကို အရွက်မဖုံးစေနှင့် ဆိုသကဲ့သို့ မူလက ရှိပြီး ဖြစ်သည့် အစဉ်အလာ ဓလေ့ထုံးစံကောင်းများကို နောက်ပေါ် အဆန်းအပြားများက လွှမ်းမိုးဖုံးအုပ် မသွားစေနှင့်။

(စကားပုံ)

## လူမတန် ကံချ

အများနှင့် တူတူတန်တန် မစွမ်းဆောင်နိုင်၍ မအောင်မြင်သည်ကို ကံအပေါ် အပြစ်ပုံချသကဲ့သို့ မိမိကိုယ်တိုင် ဖြစ်မြောက်အောင် မလုပ်နိုင်သည်ကို တစ်စုံတစ်ခုအပေါ် အပြစ်ပုံချသည်။

(စကားပုံ)

## အိုးကမပူ ဖုံးပွက်ကပူ

အိုးကမပူ စလောင်းကပူ
နှင့် အတူတူ

(စကားပုံ)

## လသာတုန်း ဗိုင်းငင်

လသာစဉ် လရောင်ဖြင့် ဗိုင်းငင်ရသကဲ့သို့ အခြေအနေပေးခိုက် လုံ့လစိုက်၍ အခွင့်အရေးကို အသုံးချရသည်။

(စကားပုံ)

# နံ့ပြီစုတ် အမြောက်နှင့်ချိန်

နံ့ပြီစုတ်ငှက်ကလေးကို အမြောက်နှင့် ပစ်ရန် ချိန်ရွယ်သကဲ့သို့ အင်အားကို အရာဌာနနှင့် မလိုက် အောင် အသုံးပြုသည်။

ကြက်ဥပြုတ် သံတုတ်နှင့်ချ - နှင့်အတူတူ။

(စကားပုံ)

## နွားချေးပုံ ကြာပေါက်

နွားချေးပုံထဲမှ ကြာပေါက်သည်ဆိုသကဲ့သို့ ဆင်းရဲနွမ်းပါးသောပတ်ဝန်းကျင်မှ ထူးချွန်ပြောင်မြောက်သူဖြစ်တောင့်ဖြစ်ခဲ့ ထွက်ပေါ်လာသည်။

(စကားပုံ)

## မျောက်ပြ ဆန်တောင်း

မျောက်ကို လှည့်လည်ပြသ၍ မိမိအတွက် ဆန်တောင်းသကဲ့သို့ တစ်စုံတစ်ရာကို အကြောင်းပြ ခုတုံးလုပ်၍ အခွင့်အရေး တောင်းသည်။

(စကားပုံ)

## အိုးရွဲ့ကို စလောင်းရွဲ့နှင့် ဖုံး

ရွဲ့နေသော အိုးကို ရွဲ့နေသော စလောင်းနှင့် ဖုံးသကဲ့သို့ တစ်ဖက်၏ မူမမှန်မှုကို တစ်ဖက်က အလားတူ အမှုဖြင့် တုံ့ပြန်သည်။

(စကားပုံ)

## အိုင်တွေ့လို့မှ မလူး ကျွဲရူး

အိုင်ကို တွေ့ပါလျက် မလူးသည့် ကျွဲသည် ကျွဲရူးသာ ဖြစ်သကဲ့သို့ အခွင့်ကောင်းရပါလျက် အခွင့်အရေး မယူသသည့် သူသည် လူမိုက်သာ ဖြစ်သည်။

(စကားပုံ)

## ဖိုးသူတော်မျက်စိလည်လေ ဆန်ရလေ။

ဖိုးသူတော် ဆန်အလှူခံထွက်ရာတွင် မျက်စိလည် လမ်းမှားလေလေ လမ်းများများ သွားရသဖြင့် ဆန် ပိုရလေလေ ဖြစ်သကဲ့သို့ မှားယွင်းကြန့်ကြာလေလေ အကျိုးရှိလေလေ ဖြစ်သည်။

## မင်းတို့ထွက် ရက်ရာဇာ

မင်းတို့ထွက် ရက်ရာဇာ ဆိုဘိသကဲ့သို့ အကျိုးရှိအောင် ဆောင်ရွက်တတ်သောသူ ဆောင်ရွက်သည့် ရက်သည် ရက်ကောင်းရက်မြတ်ပင် ဖြစ်သည်။

(စကားပုံ)

## မီးစတစ်ဖက် ရေမှုတ်တစ်ဖက်

မီးစကို တစ်ဖက်၊ ရေမှုတ်ကို တစ်ဖက်ကိုင်၍ အခြေ-အနေကို ကြိုက်သလို ဖန်တီးသကဲ့သို့ ပြေပြေပြစ်ပြစ်အောင် ပြုဟန်ဖြင့် တို့မီး ရှို့မီး လုပ်သည်။

(စကားပုံ)

# မိုးသောက်မှ ကြက်တင်၊ နေဝင်မှ စပါးလှန်း။

မိုးလင်းမှ ကြက်ကို အိပ်တန်းတင်သကဲ့သို့ လည်းကောင်း၊ နေဝင်မှ စပါးလှန်းသကဲ့သို့ လည်းကောင်း အချိန်နှင့်လုပ်ရမည့်အလုပ် ကို အချိန်လွန်မှ ပြုလုပ်သည်။

“သူမိုက်တို့ ဉာဏ်ပေါက်မှာ၊ စစ်ရောက်မှ မြားချွန်
မိုးသောက်မှ ကြက်တင်၊ နေဝင်မှ စပါးလှန်း။”

ငါးလွန်မှ ကွန်ပစ်။ မိုးလွန်မှ ထွန်ချ
တို့နှင့် အတူတူ။

## အဝေးဆယ်ရှဉ်း၊ အနီးတစ်ရှဉ်း။

အဝေး၌ ရှိသော နွားဆယ်ရှဉ်းထက် အနီး၌ ရှိသော နွားတစ်ရှဉ်းက ပို၍ လက်တွေ့ အကျိုးပြုသကဲ့သို့ မရေရာသည့် မစားရ ဝမခန်းများထက် အနည်းငယ် မျှပင်ဖြစ်စေ သေချာသည့်အရာက ပို၍ လက်တွေ့ အကျိုးပြုသည်။

(စကားပုံ)

## လုံ့လလည်းထူ မိုးလည်းကူ
## နွားချေးလည်းချ ကံလည်းမ

လယ်သမားသည် လုံ့လဝီရိယစိုက်ထုတ်မှု ရှိခြင်း၊ နွားချေးစသော မြေဩဇာချပေးခြင်း၊ မိုးကလည်း အချိန်မှန်ရွာသွန်းခြင်း၊ ကုသိုလ်ကံကလည်း ထောက်မပေးခြင်းတို့ကြောင့် သီးနှံအောင်မြင်သကဲ့သို့ လုပ်ငန်းတစ်ခုတွင် ကံဉာဏ်ဝီရိယ သုံးပါးလုံး ပြည့်စုံမှသာ အောင်မြင်မှု အပြည့်အဝရသည်။

(စကားပုံ)

# ဖောင်စီးရင်း ရေငတ် (စကားပုံ)

ရေလည်ကောင်တွင် ဖောင်စီးနေရင်း ရေငတ်နေသည် ဆိုသကဲ့သို့ လိုလားတောင့်တသည့်အရာသည် အနီးပတ်ဝန်းကျင်တွင် ပေါမျှားစွာ ရှိပါလျက် ရယူခံစားနိုင်ခြင်းမရှိ ဖြစ်သည်။

## အိမ်ကြက်ချင်း ခွပ်

အိမ်ကြက်အချင်းချင်း တစ်ကောင်နှင့်တစ်ကောင် ခွပ်ကြသကဲ့သို့ ဘဝတူအချင်းချင်း ပဋိပက္ခ ဖြစ်ကြသည်။

(စကားပုံ)

## ပုဆိုးခြုံထဲက လက်သီးပြ

မြင်မြင်ထင်ထင် လက်သီးမပြရဲသဖြင့် ပုဆိုးခြုံထားသည့်အတွင်းမှ လက်သီးဆုပ်ပြသကဲ့သို့ ရဲရဲဝံ့ဝံ့ မဖက်ပြိုင်ရဲသဖြင့် နောက်ကွယ်မှ ကြုံးဝါးသည်။

(စကားပုံ)

## မုဆိုးစိုင်သင် (စကားပုံ)

အတွေ့အကြုံမရှိသေးသည့် မုဆိုးသည် စိုင်၏ အလေ့အထကို လေ့လာ၍ ဖမ်းနိုင်မည့် နည်းလမ်းကို သိလာရသကဲ့သို့ လုပ်ငန်းကို လက်တွေ့ လေ့လာလုပ်ကိုင်ရင်း ကျွမ်းကျင်လာသည်။

# ပတ္တမြားဆန်ကျိုး အဖိုးပြည်တန်

ဆန်ကျိုးခန့်သာရှိသော ပတ္တမြားကောင်းသည် တိုင်းပြည်တစ်ပြည်ပင် ထိုက်တန်သည်ဆိုသကဲ့သို့ ပမာဏအားဖြင့် မပြောပလောက်သော်လည်း အဖိုး အနဂ္ဃ ထိုက်တန်သည်။

# မြဲရာ သံပတ်၊ ကျပ်ရာ သပ်ပင်း

ခိုင်မြဲသည်ကို ပို၍ ခိုင်မြဲအောင် သံပတ်ဖြင့် ပတ်သည်။ ကျပ်သည်ကို ပို၍ ကျပ်အောင် သပ်ပင်းသည် ဆိုသကဲ့သို့ ကောင်းမွန်သေချာပြီးဖြစ်သော်လည်း ကောင်းမွန်သည်ထက် ကောင်းမွန်အောင် အားထုတ်ပြုလုပ်သည်။

(စကားပုံ)

## နတ်ကရာ ကျီးမော (စကားပုံ)

ကျီးငှက်သည် မိမိအတွက် အစာရှာရမည်ကို မရှာဘဲ မိမိနှင့်မသက်ဆိုင်သော နတ်ပွဲကို ငေးမောရင်း အချိန်ကုန်သကဲ့သို့ မိမိအကျိုးရှိမည့်အလုပ်ကို မလုပ်ဘဲ မသက်ဆိုင်သည့်ကိစ္စများ၌ စိတ်ပါဝင်စားရင်း အကျိုးမဲ့ အချိန်ကုန်ဆုံးရသည်။

# မပြေးသော် ကန်ရာရှိ (စကားပုံ)

မပြေးပါဟုငြင်းဆိုနေသော်လည်း ပြေးရန်ခြေကန်၍ အားယူခဲ့သည့်ခြေရာ ရှိနေသကဲ့သို့ အမှုကိစ္စတစ်ခုကို မပြုလုပ်ပါဟု ငြင်းဆိုခဲ့သော်လည်း ပြုလုပ်ခဲ့ကြောင်း အထောက်အထား ရှိနေသည်။

"ဒွေးနှစ်ဖော် သံဝါညှိစဉ်က၊ မပြေးသော် ကန်ရာရှိပ့ါမလား၊ တန်ပါအမိ မဘို့မယ်။"

မြန်မာစကားပုံ

အလျှင်ဘုန်းကြီးက တစ်ချက်ခေါက်၍ ဆုံးမသည်ကို ပြင်းထန်လှသည်ဟု ထင်မှတ်နေရာ နောက်ဘုန်းကြီး ရောက်သည့်အခါ နှစ်ချက်ခေါက်၍ ဆုံးမသည် ဆိုသကဲ့သို့ နဂိုအခြေအနေကို ဆိုးလှပြီထင်နေရာ နောက်ထပ် ဖြစ်ပေါ်လာသည့်အခြေအနေတွေက ပို၍ ဆိုဝါးသည်။

(စကားပုံ)

## မျက်နှာကြီးရာ ဟင်းဖတ်ပါ (စကားပုံ)

ဧည့်သည်ချင်းအတူတူ မျက်နှာကြီးသူအား ဟင်းဖတ်များများ ပိုထည့်ပေးသည်ဆိုသကဲ့သို့ ဆက်ဆံသူချင်းအတူတူ ဂုဏ်ရှိသူအား မျက်နှာလိုက်၍ ဦးစားပေး ဆက်ဆံသည်။

## ဘီလူး လူယောင်ဆောင် ခုနှစ်ရက်

ဘီလူးက လူအသွင်ဆောင်သည့်အခါ ခုနှစ်ရက်ကြာလျှင် ဘီလူးရုပ် ပြန်ပေါ်လာသည် ဆိုသကဲ့သို့ လူယုတ်မာက သူတော်ကောင်းယောင်ဆောင်လျှင် မကြာမီကာလအတွင်း ဇာတိရုပ် ပြန်ပေါ်လာမြဲဖြစ်သည်။

'အချို့ကတော့လည်း ဘီလူးလူယောင်ဆောင်နေတာလို အရောင်အဝါအဆင်တစ်မျိုးနှင့် အကျင့်ဆိုးနေကြတာလည်း ရှိကြပေသေးတယ်။'

## ဘိန်းစားချင်းအတူတူ ပြောင်းတစ်လုံးပိုရှူ

ဘိန်းစားချင်း အတူတူ ပြောင်တစ်လုံး ပိုရှူသကဲ့သို့ အချင်းချင်းအလည်လည်များ အပေါ်၌ အသာစီး ယူသည်။

(စကားပုံ)

## မလျော့မတင်း စောင်းကြိုးညင်း

စောင်းသံကို သာယာညင်းပျောင်း ဖြစ်အောင် စောင်းကြိုးကို မလျော့လွန်း မတင်းလွန်း ညှိရသကဲ့သို့ အရာရာအဆင်ပြေ ချောမွေ့အောင် မယုတ်မလွန် ကျင့်ကြံပြောဆိုရသည်။

(စကားပုံ)

## အငိုလွယ် အရှိုက်ခက်

အငိုလွယ်သော်လည်း အရှိုက်ခက်သည်ဆိုသကဲ့သို့ စတင်ရန် လွယ်ကူသော်လည်း နောက်ပိုင်း၌ပေါ်လာမည့် ပြဿနာများကို ဖြေရှင်းရန် ခက်သည်။

(စကားပုံ)

## လူယုံသတ် သေတတ်

အခြားသူတို့နှင့်စာလျှင် အတွင်းလူ လုပ်ကြံပါက သေကျေပျက်စီးနိုင်သကဲ့သို့ မိမိ ယုံကြည်စိတ်ချရသူကြောင့် ပျက်စီးဆုံးရှုံးရတတ်သည်။

(စကားပုံ)

## နဂါးမှန်းသိအောင် အမောက်ထောင်ပြ

မြွေသာမန်မဟုတ်၊ အဆိပ်ပြင်းထန်သော မြွေနဂါး ဖြစ်ကြောင်း သိသာစေရန် အမောက်ထောင်ပြသကဲ့သို့ အရည်အချင်း အရှိန်အဝါ ညံ့သူမဟုတ်မှန်း သိသာစေရန် ထုတ်ဖော်ပြသည်။

(စကားပုံ)

လေဖမ်း ဝါးတန်းချည်

လေဖမ်း ဒန်းစီး - နှင့် အတူတူ

(စကားပုံ)

## အလှမ်းကျယ် အလယ်လပ်

အလှမ်းကျယ်၍ အလယ်၌ လစ်လပ်ကျန်သကဲ့သို့ လောဘဖြင့် ရှေ့လောတကြီး လုပ်ဆောင်၍ မစေ့မစပ် လစ်ဟင်းသည်။

(စကားပုံ)

## အပ် ဦးပဲ့ထမ်း

အပ်တစ်ချောင်းကိုပင် မိမိတစ်ဦးတည်းဆိုလျှင် မထမ်းဘဲ သူ ဦးကထမ်းမှ ကိုယ် ပဲ့က ထမ်းနိုင်မည် ဆို၍ တွက်ကတ်သကဲ့သို့ အသေးအမွှားကိစ္စများကိုပင် အချင်းချင်း တွက်ကတ် ကြေးတိုက်သည်။

(စကားပုံ)

## မဆွတ်ခင်က ညွှတ်ချင် (စကားပုံ)

အသီးအပွင့်ကို မဆွတ်ခင်ကတည်းကပင် အကိုင်းက ညွှတ်ပေးဟန် ဖြစ်နေသကဲ့သို့ မတောင်းမီကပင် လိုက်လျောချင်သည်။

## မပို့ဘဲနဲ့ မဲဇာရောက်

မင်းအာဏာဖြင့် မပို့ရဘဲနှင့် မင်းဒဏ်သင့်သူတို့ ပို့ရာ မဲဇာသို့ ရောက်သွားသကဲ့သို့ ဒုက္ခဖြစ်အောင် တမင် မဖန်တီးရဘဲနှင့် သူ့အလိုလို ဒုက္ခဖြစ်သည်။

(စကားပုံ)

## အိုင်တွေ့ ခြေဆေး

လမ်း၌ ရေအိုင်တွေ့တိုင်း ခြေဆေးစရာအမှတ်ဖြင့် ခြေဆေးပြီး အိုင်ကို ပစ်ကာ ခရီးဆက်သကဲ့သို့ မိန်းကလေး တွေ့တိုင်း ပိုးပန်းစရာ အမှတ်ဖြင့် အရောတဝင်ပြုပြီး အပျော်ကြံသည်။

(စကားပုံ)

## ရသာလျှင် ဘနဖူး သိုက်တူး (စကားပုံ)

ဥစ္စာရမည်ဆိုလျှင် အဖ၏ နဖူးတွင်ပင် သိုက်တူးသည် ဆိုသကဲ့သို့ မိမိအတွက် အကျိုးရှိမည်ဆိုပါလျှင် မည်သူ့မျက်နှာမျှ မထောက်ထားဘဲ ရက်ရက်စက်စက် ပြုသည်။

“ရနိုင်လျှင် ဘနဖူး သိုက်တူးမည့် ခေတ်ကြီးမို့ မိဘများကို အသက်ရှိတယ်လို့တောင် ထင်ကြတာ မဟုတ်ဘူး။”

မြန်မာစကားပုံ

## မှန်ကင်းတစ်လှည့် ထင်းတစ်လှည့်

သစ်သားသည် ပြာသာဒ်၏ အထွတ်အမြတ်နေရာ၌ မှန်ကင်းဖြစ်ရသည့်အခါ ရှိသကဲ့သို့ မီးဖို၌ ထင်းဖြစ်ရသည့်အခါလည်း ရှိသည်။ ထို့အတူ ဘဝတွင် လောကဓံတရားအရ အထွတ်အထိပ် ခံစားရသည့် အလှည့်ရှိသကဲ့သို့ နိမ့်ပါးရသည့် အလှည့်လည်း ရှိသည်။

(စကားပုံ)

## မူးလျှို့ ပဲလျှို့ ဖြေိုး ကျွန်ဖြစ်

တစ်မူးစ တစ်ပဲစ မသိမသာ တစ်တိတိကုန်ရာမှ ဖြေိုး ကျွန်ဖြစ်ရသည်ဆိုသကဲ့သို့ တစ်တိတိ ကုန်သည်ကို ဂရုမစိုက်ဘဲ သတိမထား၍ နောက်ဆုံးတွင် မွဲပြာကျသော ဘဝသို့ ရောက်ရသည်။

(စကားပုံ)

## မရဲဘဲနှင့် ကျွဲပြဲစီး (စကားပုံ)

မစီးရဲဘဲလျက် ဝဖီးတုတ်ခိုင်သော ကျွဲကြီးကို မဝံ့မရဲ နှင့် စီးသကဲ့သို့ မနိုင်နင်းမှန်းသိလျက် ဒုက္ခတွေ့နိုင်သည့် ကိစ္စကို မဝံ့မရဲ လုပ်သည်။

## မြင်သာမြင်ရ မကြင်ရ

မြင်ရုံသာမြင်ရပြီး ချစ်ကြင်ပေါင်းသင်းခွင့် မရသကဲ့သို့ မက်မောစရာများကို မြင်တွေ့နေရပါလျက် ပိုင်ဆိုင်သုံးစွဲခွင့်မရ ဖြစ်သည်။

(စကားပုံ)

## မွဲချင်တဲ့ခွေး ပြာပုံတိုး

အရောင်မွဲချင်သော ခွေးသည် ပြာပုံကို တိုးသည် ဆို-သကဲ့သို့ ဆင်းရဲဖို့ ဖြစ်လာသူသည် ဆင်းရဲမည့် အလုပ်များချည်း လုပ်သည်။

(စကားပုံ)

## မျက်နှာမရ ခြေကျောက်ရ

မျက်နှာရလို၍ ဆောင်ရွက်ပါသော်လည်း မျက်နှာမရသည့်အပြင် ခြေဖြင့်ပင် အကန်ကျောက်ခံရသေးသကဲ့သို့ မိမိက စေတနာနှင့် ပြုလုပ်ပေးရာတွင် ချီးမွမ်းမခံရရုံမျှမက ပြစ်တင်ရှုတ်ချခြင်းပင် ခံရသေးသည်။

(စကားပုံ)

# မကိုခင်မှ ဉကိုခင် (စကားပုံ)

ငှက်ဖိုသည် ငှက်မကို ခင်တွယ်မှ ဉနှင့် အသိုက်မြုံကို ခင်တွယ်သကဲ့သို့ ယောကျ်ားများသည် မိမိ၏ အိမ်သူဇနီးအပေါ် ချစ်ခင်တွယ်တာမှုရှိမှ သားသမီးများအပေါ်တွင်လည်း ချစ်ခင်တွယ်တာမှုရှိသည်။

"မကိုခင်မှ ဉကိုခင် သတဲ့။ ငါ့ကိုမုန်းရင် ကလေးကို ဒါလောက် ယုယပါ့မလား။"

မြန်မာစကားပုံ

## မျောက်သားစားချင် မျောက်မျက်နှာကြည့်

မျောက်သားစားလိုစိတ် ဖြစ်ပေါ်စေကာမူ မျောက်၏ သနားစရာမျက်နှာကို ကြည့်ရှု၍ ငဲ့ညှာသင့်သကဲ့သို့ တစ်စုံတစ်ယောက်အပေါ်၌ ရက်စက်လိုစိတ် ဖြစ်ပေါ် စေကာမူ တစ်ချိန်က ထိုသူ၏ ကောင်းခဲ့ဖူးသော အချက်များကို ငဲ့၍ ထောက်ထားသင့်သည်။

(စကားပုံ)

## မျက်စိကန်း တစ္ဆေမကြောက် (စကားပုံ)

မျက်စိကန်းသူသည် တစ္ဆေကို မမြင်ရသဖြင့် ကြောက်ရမှန်း မသိသကဲ့သို့ အသိပညာမရှိသူသည် ကျရောက်မည့်ဘေးကို မမြင်သဖြင့် ကြောက်ရမှန်းမသိ။

## မစွမ်းရင်းကလည်းရှိ ကန်စွန်းခင်းကလည်းငြိ

နဂိုက မသန်မစွမ်းဖြစ်နေရာတွင် ကန်စွန်းနွယ်များနှင့် ငြိပြန်သကဲ့သို့ မူလက စိတ်ညွတ်နေရာတွင် ပတ်ဝန်းကျင်ကလည်း အားပေးမှုပြုသည်။

(စကားပုံ)

## ရွှေမရှိတဲ့ဘုရား လူမရှိသေ

ရွှေရောင်မရှိသော ရုပ်ပွားစေတီကို လူတို့အရေးတယူ ကိုးကွယ်ခြင်းမပြုကြသကဲ့သို့ အရည်အချင်းပင်ရှိသော်လည်း ထည်ထည်ဝါဝါမရှိသူကို လူမလေးစားပေ။

(စကားပုံ)

## အရိပ်မလာခင် နေပူကစောင့်

နေရိပ်လာမည်ကို နေပူခံ၍ စောင့်ရသကဲ့သို့ နောင် ချမ်းသာမှုအတွက် ဒုက္ခခံ၍ စောင့်သည်။

(စကားပုံ)

## ဖွတ်မိကျောင်းဖြစ် မြစ်မချမ်းသာ

ဖွတ်ကြီးလျှင် မိကျောင်းဖြစ်လာသည်ဟု အချို့က ထင်မြင်ယူဆကြသည်။ လျှာမဲ့သော မိကျောင်းကိုပင် ရေသတ္တဝါများ ထိတ်လန့်ကြောက်ရွံ့နေကြရသည်။ ကုန်းသတ္တဝါဖြစ်သည့် လျှာရှိသော ဖွတ်သည် မိကျောင်းဖြစ်လာပါက ကုန်ပေါ်၌သာမက ရေထဲ၌ပါ ကျက်စားနိုင်မည် ဖြစ်သည့်အတွက် မြစ်အတွင်းရှိ ရေသတ္တဝါများအားလုံး ပို၍ ဒုက္ခရောက်ဖွယ် ရှိသည်။ ထို့အတူ စိတ်ထားညံ့ဖျင်းသူ၊ အဆင့်အတန်း မရှိသူတို့ အရှိန်အဝါကြီးမြင့်သောအခါ ပတ်ဝန်းကျင် တစ်ခုလုံး ဒုက္ခရောက်ရသည်။

## မိကျောင်းမင်း ရေခင်း ပြ

ရေ၌ ကျင်လည်ကျက်စားသော မိကျောင်းအား ရေအကြောင်းကို သင်ပြသည်ဆိုသကဲ့သို့ နှံ့စပ် ကျွမ်းကျင်ပြီးသူအား လူသိလူတတ် လုပ်၍ ဆရာ လုပ်သည်။

ရေခင်း = ရေနှင့်စပ်ဆိုင်သော စွမ်းရည်

(စကားပုံ)

## ပေကုန်၍ စာမကျ

ပေချပ်များစွာကုန်အောင် သင်အံခဲ့သော်လည်း စာကို ကျနစွာ မတတ်မြောက်သကဲ့သို့ အချိန်၊ လုပ်အား၊ ဥစ္စာတို့သာ ကုန်၍ ဖြစ်မြောက်အောင် အကျိုးမရ ဖြစ်သည်။

(စကားပုံ)

## ရေများရာ မိုးရွာ

ရေရှားပါးသောအရပ်တွင် မိုးမရွာဘဲ ရေပေါများသောအရပ်တွင် မိုးရွာဘိသကဲ့သို့ ရှားပါးချို့ငဲ့သူကို ထောက်ပံ့ခြင်း မပြုဘဲ ပေါများပြည့်စုံသူကို ဖြည့်ဆည်းထောက်ပံ့သည်။

ပင်လယ်ထဲ မိုးရွာနှင့်- အတူတူ။

(စကားပုံ)

## ဘုရားမှတ်လို့ ကိုးကွယ်ပါ၊
## ဖွတ်ထွက်မှ တောင်ပို့မှန်းသိ။

ဘုရားစေတီအမှတ်ဖြင့် ကိုးကွယ်နေရာ ဖွတ်ထွက်လာသည့်အခါမှ တောင်ပို့မှန်း သိရသကဲ့သို့ သူတော်ကောင်းဟု ဆည်းကပ်နေရာ အကျင့်သိက္ခာမဲ့စွာ ပြုမူမှ မသူတော်ဖြစ်မှန်း သိရသည်။

(စကားပုံ)

## မီးခဲ ပြာဖုံး

လောင်တတ်သော သတ္တိရှိသော်လည်း ပြာဖုံးသော မီးခဲသည် တောက်လောင်ခွင့် မရသေးသကဲ့သို့ အစွမ်းသတ္တိရှိသော်လည်း အခြေအနေ မပေးသေး၍ အစွမ်းသတ္တိပြသခွင့် မရသေးဖြစ်သည်။

(စကားပုံ)

## မီးကြီး ငြမ်းခို၊ ကျောက်ကြီး ငါးခို။

မီးရှူးဒုံးပျံကြီး ကောင်းကင်သို့ တက်နိုင်ရန် ခိုင်ခံ-
့သော ငြမ်းကို အားပြုမှီခိုရသကဲ့သို့ ငါးများသည်
ကြီးမားသော ကျောက်ဆောင်ကို သဘာဝအလျောက်
မှီခိုကြသကဲ့သို့ ခိုင်ခံ့ကြီးမားသော အမှီအခိုကို
သူသူငါငါ မှီခိုကြရသည်။

(စကားပုံ)

# မလို ကူးတို့ခ တောင်း (စကားပုံ)

ကူးတို့သမားသည် ကူးတို့ခ မယူဘဲ လိုလိုချင်ချင် တစ်ဖက်ကမ်းသို့ ပို့ဆောင်ပြီး စိတ်အခန့်မသင့်ဖြစ်သော တစ်ချိန်တွင်မှ ကူးတို့ခကို ပြန်တောင်းသကဲ့သို့ ကျေနပ်နှစ်သက်၍ မျှော်လင့်ချက်မထားဘဲ လိုလိုချင်ချင် ကူညီခြင်း၊ ပံ့ပိုးခြင်း ပြုလုပ်ပြီးနောင် အခန့်မသင့်သော တစ်ချိန်တွင်မူ ယခင် ကျေးဇူးပြုခဲ့ခြင်းအတွက် ပြန်လည်ပေးဆပ်ရန် ပြောဆိုသည်။

## မှန်းချက်နှင့် နှမ်းထွက်မကိုက်

နှမ်းခင်းမှ နှမ်းမည်မျှထွက်မည်ဟု မှန်းထားသော်လည်း တကယ် ထွက်သည့်နှမ်းမှာ မှန်းသလောက် မဟုတ်သကဲ့သို့ အခြေအနေ မည်သို့ရှိမည်ဟု မျှော်လင့်မှန်းထားသော်လည်း ထင်မှန်းသလောက် ဖြစ်မလာဘဲ ရှိသည်။

(စကားပုံ)

## မုန့်ဆီကြော်ဘယ်နေမှန်းမသိ၊ နှုတ်ခမ်းနာနှင့် တည့်ပါ့မလား။

မုန့်ဆီကြော် မကြော်ရသေးမီကပင် နှုတ်ခမ်းနာနှင့် သင့်ပါမလားဟု ကြောင့်ကြသကဲ့သို့ အခွင့်အလမ်း တစ်စုံတစ်ရာ မပေါ်သေးမီကပင် မိမိနှင့်ဖြစ်ပါ့မလား တော်ပါ့မလားဟု ကြောင့်ကြသည်။

(စကားပုံ)

## မြွေပွေး ပိုးထိ

မြွေပွေးသည် အခြားမြွေဆိုး၏ အကိုက်ခံရသည် ဆို-သကဲ့သို့ အလွန် ပါးနပ်လှသည်ဆိုသောသူသည် သူတစ်ပါး၏ လှည့်ပတ်ခြင်းကို ခံလိုက်ရသည်။

(စကားပုံ)

## လက်ဖက်ကောင်းစားချင် ပလောင်တောင်တက်နှေးစေ

လက်ဖက်ကောင်းစားလိုလျှင် အညွန့်သန့်သန့်ကလေးများရအောင် လက်ဖက်ခူးသူ ပလောင်များကို တောင်စောင်းတစ်လျှောက် နှေးနှေးမှန်မှန် တက်ခူးစေရသကဲ့သို့ လုပ်ငန်းကို ကောင်းမွန်စေလိုလျှင် စိတ်တိုင်းကျဖြစ်မြောက်အောင် ဆောင်ရွက်သူများကို ထိုက်သင့်သောအချိန်ပေးရမည်။

(စကားပုံ)

## အိုးနှင့်ဆန် တန်ရုံ (စကားပုံ)

အိုး၏ အရွယ်ပမာဏနှင့် ချက်မည့်ဆန် ပမာဏသည် သင့်တင့်လျောက်ပတ်ရုံမျှသာ ဖြစ်ရသကဲ့သို့ သူ့အတိုင်းအတာနှင့်သူ သင့်တင့်လျောက်ပတ်ရုံမျှသာ ဖြစ်သည်။

"အဝတ်အစားတို့ကို ကန့်သတ်ဖို့လိုတယ်၊ မကန့်သတ်ဘူးဆိုရင် ဝယ်လို့မဆုံး ဖြစ်တော့မှာပဲ၊ သူ့အိုးနှင့်သူ့ဆန် တန်ရုံလုပ်ဖို့ဆိုတာမလွယ်လှဘူး အဆုံးမှာတော့ စည်းကမ်းထိန်းသိမ်းမှုဟာ အရေးကြီးဆုံးပဲ"

## လူပါး ပုလင်းထိ (စကားပုံ)

အလွန် ပါးနပ်သည်ဆိုသောသူသည် ပုလင်းဖြင့် ပေါက်ခြင်း ခံလိုက်ရသကဲ့သို့ အလွန် လည်သည်ဟု ဆိုသောသူသည် သူ့ထက် လည်သူ၏ လှည့်ကွက်၌ ခံလိုက်ရသည်။

## မျက်ဖြူဆိုက်လေ ဆရာကြိုက်လေ

လူနာ မျက်ဖြူဆိုက်လေ လူနာရှင်ထံမှ ငွေချူလို သည့် ဆေးဆရာက ကြိုက်လေဖြစ်သကဲ့သို့ သူ တစ်ပါး အကျပ်ရိုက်လေ အခွင့်ကောင်းယူလိုသူက ကြိုက်လေဖြစ်သည်။

(စကားပုံ)

## ရွှေသမင် ဘယ်ကထွက်၊ မင်းကြီးတာ က ထွက်

ရွှေသမင်ကို ကိုယ့်တာနှင့်ကိုယ် အသီးသီး တာဝန်ယူ၍ ပိတ်ဆို့ဖမ်းဆီးကြရာတွင် ရွှေသမင်သည် ဘုရင်မင်းကြီး၏တာမှ ထွက်ပြေးလွတ်မြောက်သွားသကဲ့သို့ ကိုယ့်တာဝန်ပိုင်းနှင့်ကိုယ် ဆောင်ရွက်ကြရာတွင် အကြီးအကဲလုပ်သူ လူကြီး၏ အပိုင်းမှ လစ်ဟင်းပျက်ကွက်သည်။

(စကားပုံ)

## အလုပ်မရှိ ကြောင်ရေချိုး

အခြား လုပ်စရာမရှိသဖြင့် မလိုအပ်ဘဲလျက် ကြောင်ကို ရေချိုးပေးသည် ဆိုသကဲ့သို့ အားအား ရှိသဖြင့် အလုပ်မဟုတ်သည်ကို အလုပ်အဖြစ် လုပ်သည်။

(စကားပုံ)

## မထိုင်ခင် ခြေဆင်း

ထိုင်ပြီးမှသာ ခြေဆင်းရမည်ဖြစ်သော်လည်း မထိုင်ခင်ကပင် တင်ကြိုပြီး ခြေဆင်းသည်ဆိုသကဲ့သို့ တစ်ဆင့်ပြီးမှ နောက်တစ်ဆင့် လုပ်ရမည်ဖြစ်သော်လည်း ပထမအဆင့်ကိုမလုပ်မီ ကျော်လွှား၍ ပြုမူလုပ်ကိုင်သည်။

(စကားပုံ)

## မချစ်သော်လည်း အောင့်ကာနမ်း

မချစ်သော်ငြားလည်း မတတ်သာ၍ အသက်အောင့်ကာ ချစ်လေဟန် နမ်းရသကဲ့သို့ စိတ်မပါသော်ငြားလည်း မတတ်သာ၍ မျက်စိမှိတ်ကာ အခြေအနေအရ ဆောင်ရွက်ရသည်။

(စကားပုံ)

## မခေါ်ခင်က တော်ထူးချင်

မခေါ်ခင်ကပင် 'တော်' ဟု ထူးချင်နေသကဲ့သို့ မတောင်းခံမီကပင် လိုက်လျှောချင်နေသည်။

(စကားပုံ)

## ရေမနောက် ကြာမရှောက်

ရေလည်း မနောက်စေရ၊ ကြာပင်လည်း မရှုပ်ထွေးစေရဘဲ ရေကြည်သောက်သကဲ့သို့ မည်သူကိုမျှ မထိခိုက်စေဘဲ မိမိလိုရာကိစ္စ ပြီးအောင် ဆောင်ရွက်သည်။

(စကားပုံ)

## လက်သည်းဆိတ် လက်ထိပ်နာ

လက်သည်းကို ဆိတ်က လက်ထိပ်ပါနာသကဲ့သို့ သက်ဆိုင်သူ ဆွေမျိုးသားချင်းကို ထိပါးလာပါက မိမိကို ထိပါးသကဲ့သို့ပင် နာကြည်းသည်။

(စကားပုံ)

မရဲသော်လည်း ပြေးခဲ့စေ (စကားပုံ)

ရန်သူနှင့်တွေ့သည့်အခါ ကြောက်သော်ငြားလည်း အလွယ်တကူ ထွက်မပြေးသင့်သကဲ့သို့ အခက်အခဲနှင့်တွေ့သည့်အခါ အလွယ်တကူ အလျှော့မပေးဘဲ ဟန်မပျက် ရင်ဆိုင်သင့်သည်။

# ဘူးထဲက ရေပါ (စကားပုံ)

ရေတိမ်၌ ဘူးကိုစောင်း၍ နှစ်ခပ်ရာတွင် ရေမဝင်ရုံမျှမက ဘူးထဲကရေပင် ထွက်သွားသကဲ့သို့ အမြတ်အစွန်းရရန် လုပ်ကိုင်ရာတွင် အမြတ်မရရုံမျှမက အရင်းထဲကပင် ပါသွားသည်။

## မကတတ် ဖျာ အပြစ်တင်

အကမတတ်သဖြင့် အဆင်မပြေဖြစ်သည်ကို ဖုံးကွယ်ရန် ဖျာကို ယိုးမယ်ဖွဲ့၍ အပြစ်လွှဲချသကဲ့သို့ မိမိ မစွမ်းဆောင်နိုင်သည်ကို ဖုံးကွယ်ရန် အကြောင်း တစ်စုံတစ်ရာ ရှာကြံ၍ အပြစ်လွှဲချသည်။

(စကားပုံ)

## မုန့်သည်မသား မုန့်နားစား

မုန့်သည်မ၏သားသည် အမေရောင်းသည့် မုန့်အဖျား အနားမှ ကြွေပဲ့သည့် အကြွေအပဲ့များကို စားရသကဲ့သို့ လူကြီးသူကြီးနား၌ နေရသူများသည် အသေးအမွှား အခွင့်အရေးကလေးများကိုသာ ခံစားရသည်။

(စကားပုံ)

## ယုန်ထောင် ကြောင်မိ (စကားပုံ)

ယုန်ကို ထောင်သော်လည်း ယုန်ကို မမိဘဲ ကြောင်ကိုသာ မိသကဲ့သို့ မိမိဆင်ထားသော အကွက်တွင်းသို့ မိမိရည်စူးသူက ဝင်မလာဘဲ မရည်စူးသူက ဝင်လာသည်။

## ရှင်ဘုရင်အတွက် ဝေက်က ဒဏ်ခံ

ရှင်ဘုရင်အား သင့်ရောက်မည့် ဘေးဒဏ်ကို ဝေက်က ကြားဝင်၍ ခံရသည်ဆိုသကဲ့သို့ သူတစ်ပါး၌ ကျရောက်မည့် ဒုက္ခကို မဆိုင်သူက ကြားဝင်၍ ခံရသည်။

(စကားပုံ)

## မစားရ အညှော်ခံ

ငါးကြော်ကို မစားရဘဲနှင့် အညှော်ခံရရုံသက်သက်မျှ ဖြစ်သကဲ့သို့ အခွင့်အရေးများကို မခံစားရဘဲနှင့် မျှော်လင့်ရရုံ သက်သက်သာ ဖြစ်သည်။

(စကားပုံ)

## ယုန်အတွက် ချုံက ကြောင့်ကြ

အဖမ်းခံရမည်ကို ကာယကံရှင် ယုန်က စိုးရိမ်ကြောင့်ကြရမည့်အစား ယုန်အတွက် တောချုံက ကြောင့်ကြနေသည်ဆိုသကဲ့သို့ မသက်ဆိုင်သူက ကြားဝင် ပူပန်သည်။

(စကားပုံ)

## မြွေပါလည်းဆုံး သားလည်းဆုံး

မြွေပါရော သားပါ ဆုံးရှုံးရသကဲ့သို့ နှစ်ဖက်နှစ်လမ်းလုံး နစ်နာဆုံးရှုံးသည်။

(စကားပုံ)

## အသားထဲက လောက်ထွက်

အသားထဲကပင် လောက်ကောင် ပေါ်ထွက်လာသကဲ့သို့ မိမိတို့ အချင်းချင်းထဲမှပင် သစ္စာဖောက် ပေါ်ထွက်သည်။

(စကားပုံ)

## ရွာသားမင်းနေ ရွာနေမရှက်

တစ်ရွာတည်းသားဖြစ်သူ မင်းမှုထမ်းကို ရွာနေလူအများက ရှက်ကြောက်လေးစားခြင်း မရှိကြသကဲ့သို့ အချင်းချင်းထဲမှ တာဝန်ရှိ ပုဂ္ဂိုလ်ဖြစ်လာသူအား တစ်ချိန်က ဘဝတူများက လေးစားရိုသေခြင်း မရှိပေ။

(စကားပုံ)

## မပိုင် ဝက်မွေး

မပိုင်ဝက် မွေးဘက်ယူ - နှင့် အတူတူ။

(စကားပုံ)

## ဘတော်ပျံ လည်းမမီ၊ ထီးတင်ပွဲလည်း မတွေ့

ဟိုပွဲ သွားရနိုး၊ သည်ပွဲ သွားရနိုးနှင့် ဘတော်ပျံကို လည်းကောင်း၊ ထီးတင်ပွဲကိုလည်းကောင်း မမီလိုက် သောသူကဲ့သို့ ဆုံးဖြတ်ချက် မပြတ်သားသဖြင့် တစ်ခု မဟုတ်တစ်ခု ရနိုင်ပါလျက် အခွင့်အရေးနှစ်ရပ်စလုံး လက်လွတ်ဆုံးရှုံးရသည်။

(စကားပုံ)

## ရေနစ်သူ ဝါးကူ၍ထိုး

ရေနစ်သူအား ကယ်ဆယ်လိုသော သဘောဖြင့် ဝါးကူ၍ ထိုးပေးသော်လည်း ကယ်ဆယ်ရာမရောက်ဘဲ ပိုမိုရေနစ်အောင် နှစ်သတ်နေသည့် သဘောဖြစ်နေသကဲ့သို့ ဒုက္ခရောက်နေသူအား ကယ်တင်သည့်အခါ ကယ်တင်ရာမရောက်ဘဲ ပို၍ ဒုက္ခရောက်အောင် ပြုလုပ်သကဲ့သို့ဖြစ်သည်။

## မပြည့်သည့်အိုး ဘောင်ဘင်ခတ်

ရေမပြည့်သည့် အိုးသည် သယ်ယူရာ၌ ဘောင်ဘင်ခတ်၍ အသံမြည်သကဲ့သို့ မပြည့်ဝသောသူသည် တည်ကြည်ငြိမ်သက်ခြင်း မရှိပေ။

(စကားပုံ)

မြန်မာစကားပုံ

## အမိမဲ့သား ရေနည်းငါး

အမိမဲ့သားသည်လည်းကောင်း၊ ရေနည်းရာမှာနေရသော ငါးသည်လည်းကောင်း ဆင်းရဲဒုက္ခရောက်ရသကဲ့သို့ ခိုကိုးရာမဲ့သူသည် ဆင်းရဲဒုက္ခရောက်ရသည်။

(စကားပုံ)

## အသွားမတော် တစ်လှမ်း၊
## အစားမတော် တစ်လုတ်

အစားမတော်လျှင် တစ်လုတ်တစ်ဆုပ်စားရုံ၊ အသွား မတော်လျှင် ခြေတစ်လှမ်း လှမ်းရုံဖြင့် အန္တရာယ် ဖြစ်နိုင်သကဲ့သို့ အလုပ်အကိုင် တစ်ချက်မှားရုံဖြင့် အန္တရာယ် ဖြစ်နိုင်သည်။

(စကားပုံ)

## မမှားသော ရှေ့နေ၊ မသေသော ဆေးသမား

အလျှောက်အလဲ မမှားဖူးသော ရှေ့နေ၊ လူနာ မသေဖူးသော ဆေးသမားဟူ၍ မရှိသကဲ့သို့ မည်မျှ ပင် အတွေ့အကြုံ ရှိစေကာမူ တစ်ကြိမ်တစ်ခါမျှ မမှားဖူးသူဟူ၍ မရှိချေ။

(စကားပုံ)

## ရှဉ့်လည်း လျှောက်သာ၊ ပျားလည်း စွဲသာ။

ပျားနှင့် ရှဉ့်တို့သည် သစ်ကိုင်းတစ်ကိုင်းတည်း၌ ပျားအုံလည်းဖွဲ့သာ၊ ရှဉ့်လည်း လျှောက်သာစေရာ သကဲ့သို့ ကိစ္စတစ်ရပ်၌ နှစ်ဖက်အကျိုး မျှတစေရာ သည်။

(စကားပုံ)

## မြွေမှန်လျှင် တွင်းဝင်ဖြောင့်

မည်မျှကောက်ကွေ့သော တွင်းဖြစ်စေကာမူ မြွေမှန်လျှင် ဖြောင့်ဖြောင့်တန်းတန်း ဝင်နိုင်သကဲ့သို့ မည်မျှပင် အထစ်အငေါ့ ရှိစေကာမူ မှန်ကန်သူဖြစ်ပါက နောက်ဆုံးတွင် ပြေပြစ်ချောမောသွားသည်။

(စကားပုံ)

## မြွေမသေ၊ တုတ်မကျိုး (စကားပုံ)

မြွေကို ရိုက်နှက်ခြင်း မပြုဘဲ တုတ်ဖြင့်ခြောက်လှန့်ရုံသာခြောက်လှန့်ခြင်းဖြင့် မြွေလည်းမသေ၊ တုတ်လည်းမကျိုးရသကဲ့သို့ တစ်ဦးဦးအား ထိခိုက်ခြင်းမရှိစေဘဲ ပြေလည်အောင်ထိန်းသိမ်းဆောင်ရွက်ခြင်းဖြင့် နှစ်ဦးနှစ်ဖက်လုံး နစ်နာခြင်းမရှိ။

## အုတ်မရှိလို့ မြို့မတည်၊ နှယ်နှယ်မှတ်သလား

အုတ်မရှိ၍သာ အုတ်တံတိုင်း မခတ်ရခြင်း ဖြစ်သည်၊ မတတ်နိုင်၍ မဟုတ်ဆိုသကဲ့သို့ အရည်အချင်း ရှိသော်လည်း ငွေအင်အားမရှိသဖြင့် စိတ်ထင်တိုင်း မပေါက်ဖြစ်သည်။

(စကားပုံ)

## မီးများ မီးနိုင်၊ ရေများ ရေနိုင်။

မီးလောင်ရာတွင် မီးက အားသာလျှင် မီးက အနိုင်ရပြီး ရေက အားသာလျှင် ရေက အနိုင်ရသကဲ့သို့ အင်အားများရာက လွှမ်းမိုး အနိုင်ရသည်။

(စကားပုံ)

## ရော့ ပတ္တမြား၊ ရော့ နဂါး။

ပတ္တမြားကို လက်ငင်းပေးမှ နဂါးရှိရာကို လက်တွေ့ပြသကဲ့သို့ တန်ဖိုးကို လက်ငင်းပေးချေမှ ပစ္စည်းကို လက်ငင်းရရှိနိုင်သည်။

(စကားပုံ)

မြန်မာစကားပုံ

## မရောင်ရာ ဆီလူး (စကားပုံ)

ဖူးရောင်သည့်နေရာကို ဆီမန်းမလူးဘဲ မရောင်သည့် နေရာကို လူးသကဲ့သို့ ကိစ္စတစ်ရပ် ဖြေရှင်းရာတွင် လုပ်ဆောင်ရမည့်အချက်ကို မလုပ်ဘဲ မလိုအပ်သည့် အချက်ကို အပင်ပန်းခံ၍ လုပ်သည်။

မြန်မာစကားပုံ

# မြင်းကောင်းပြေးရာ ခွာကျိုးကန့်လန့်

မြင်းကောင်းများ ပြေးရာ၌ ခွာကျိုးနေသော မြင်းက ကိုးလိုးကန့်လန့်နှင့် လိုက်ပါနေသကဲ့သို့ တတ်သိနားလည်သူတို့ လုပ်ကိုင်ကြရာ၌ နားမလည်သူက ကန့်လန့်ကန့်လန့်နှင့် ပါဝင်နေသည်။

(စကားပုံ)

## လင်းတလောက်တော့ ငှက်တိုင်းလှ

လင်းတလှသမျှလောက်ကား ငှက်တိုင်းပင် လှကြသကဲ့သို့ သာမန် အရည်အချင်းမျိုးမျှလောက်ကား လူတိုင်း၌ ရှိကြသည်။

(စကားပုံ)

## ရှေ့ဆောင်နွားလား ဖြောင့်ဖြောင့်သွားက
## နောက်နွားစဉ်စိုက် ဖြောင့်ဖြောင့်လိုက်၏

ရှေ့ဆောင်နွားလား ဖြောင့်ဖြောင့်သွားလျှင် နောက်နွားများလည်း အစဉ်တစိုက် ဖြောင့်ဖြောင့်လိုက်ဘိသကဲ့သို့ ဦးစီးခေါင်းဆောင်ဖြစ်သူက ဖြောင့်ဖြောင့်မတ်မတ် ကြံစည်လုပ်ဆောင်ပါလျှင် နောက်လိုက်ငယ်သားများလည်း ဖြောင့်ဖြောင့်မတ်မတ်ပင် ကြံစည်လုပ်ဆောင်ကြသည်။

(စကားပုံ)

## ရှင်နည်းရာ အဂ္ဂလူထွက်

ကျောင်း၌ ရှင်သာမဏေ နည်းပါးနေရာတွင် ရှင်အဂ္ဂက ထပ်မံ၍ လူထွက်သွားပြန်သကဲ့သို့ မူလက အရေအတွက်နည်းနေရာတွင် ထပ်မံ၍ လျော့ပါးသွားသည်။

(စကားပုံ)

## မဖြစ်ဘဲနဲ့ သာကဲခေါင်းတဝင့်ဝင့်

သာကဲသည် ဘာမျှ ဖြစ်ဖြစ်မြောက်မြောက် မရှိဘဲလျက် လူအထင်ကြီးအောင် ခေါင်းတဝင့်ဝင့်ဖြင့် ဟန်ရေးပြသကဲ့သို့ မိမိအမှန်တကယ် ကျွမ်းကျင်တတ်မြောက်မှု မရှိဘဲလျက် လူအထင်ကြီးအောင် ဟန်ရေးတပြပြ လုပ်နေသည်။

(စကားပုံ)

## မင်းလောင်းမှန် ရထားဆိုက်

မင်းလောင်းမှန်လျှင် ဖုသျှရထား ဆိုက်ရောက်လာရသည်ဆိုသကဲ့သို့ ကုသိုလ်ကံအရ ထိုက်တန်သူမှန်ပါက အခွင့်အရေးတို့သည် အလိုလို ဆိုက်ရောက်လာကြသည်။

(စကားပုံ)

## ဖားကိုလို ဖားပေါင်ဖြင့် မျှား

ဖားကို အလိုရှိပါက ဖားပေါင်ဖြင့် မျှားရသည် ဆို-သကဲ့သို့ တစ်စုံတစ်ရာကို အလိုရှိလျှင် နှီးနွှယ်ပတ်သက်ရာနှင့်ပင် ရယူ နိုင်သည်။

(စကားပုံ)

## မုသားမပါ လက်ာမချော

ကဗျာဖွဲ့ဆိုရာတွင် တန်ဆာဆင်မှုမပါရှိပါက ကဗျာမချောသကဲ့သို့ စကားပြောဆိုရာတွင် ပရိယာယ်မပါဘဲ အရှိကို အရှိအတိုင်းချည်း ပြောဆို၍ မချောမွေ့နိုင်ချေ။

(စကားပုံ)

## ပန်းထိမ်တတ်မတတ် ဂဟေစပ်သက်သေ။

ဂဟေစပ်လက်ရာကို ကြည့်ခြင်းဖြင့် ပန်းထိမ်ပညာ တတ်မတတ် သိရသကဲ့သို့ လူတစ်ဦး၏လက်ရာကို ကြည့်၍ သူ၏ ကျွမ်းကျင်မှုကို သိနိုင်သည်။

(စကားပုံ)

## မုဆိုးနားနီး မုဆိုး၊ တံငါနားနီး တံငါ။

မုဆိုး၏ အနီးအနားတွင် နေရသူသည် မုဆိုး၏ အလေ့စရိုက်၊ တံငါ၏ အနီးအနားတွင် နေရသူသည် တံငါ၏ အလေ့စရိုက်ရရှိလာသကဲ့သို့ မကောင်းသော ပတ်ဝန်းကျင်တွင် ကြီးပြင်းလာရသူသည် မကောင်းသော အမူအကျင့်ကို ရရှိသည်။

(စကားပုံ)

# လှေဦးခြောက် ခြောက်၊ လှေဦးစို စို

တံငါသည် ငါးဖမ်းမထွက်လျှင် စားရေးဝတ်ရေး မပြေလည်၊ ငါးဖမ်းနိုင်မှ စားရေးဝတ်ရေး ပြေလည်သကဲ့သို့ အလုပ်မလုပ်လျှင် စားရေးဝတ်ရေး မပြေလည်၊ အလုပ်လုပ်မှ စားရေးဝတ်ရေး ပြေလည်သည်။

(စကားပုံ)

## လှေ့ာ်ကား ဝန်တင်

မင်းခမ်းမင်းနားသုံး လှေ့ာ်ကားလှေတွင် ဝန်စည်စလယ် တင်လျှင် မလျော်ကန်သကဲ့သို့ အရာဌာနအလိုက် မသုံးတတ်လျှင် မသင့်လျော်ဖြစ်သည်။

(စကားပုံ)

လှေ့ာ်ကား = မြန်မာဘုရင်လက်ထက်သုံး ဦးပဲ့ကော့ထောင်သော လှေကြီးတစ်မျိုး။

## ရွှေပင်နား ရွှေကျေး (စကားပုံ)

ရွှေပင်မှာနားသည့် ကျေးသည် ရွှေရောင်ဟပ်သဖြင့် ရွှေကျေးဖြစ်လာသကဲ့သို့ ဂုဏ်ရှိသော အသိုင်းအဝိုင်းသို့ရောက်ရှိလျှင် ထိုအသိုင်းအဝိုင်း အရှိန်ကြောင့် ဂုဏ်သရေရှိလာသည်။

## ရောင်တော်ပြန်နှင့် ရောလွှတ်

ရောင်တော်ပြန်လွှတ်ခြင်းနှင့် အခြားသော အလင်းရောင်တို့သည် ပက်သက်ခြင်း မရှိဘဲလျက် အခြားသောအလင်းရောင်းတို့ကလည်း ရောင်တော်ပြန်နှင့် ရောနှော၍ ရောင်ခြည်လွှတ်သည်ဆိုသကဲ့သို့ အဖြစ်အပျက်တစ်ရပ်နှင့် မပတ်သက်ဘဲလျက် ရောယောင်၍ ပုံမှားရိုက်ကာ အခွင့်အရေးယူသည်။

(စကားပုံ)

## ရှေ့ဆောင်နွားလား ကောက်ကောက်သွားက နောက်နွားတစ်သိုက် ကောက်ကောက်လိုက်၏

ရှေ့ဆောင်နွားလား ကွေ့ကွေ့ကောက်ကောက် သွားပါက နောက်နွားများသည်လည်း ကွေ့ကွေ့ ကောက်ကောက်လိုက်သကဲ့သို့ ဦးစီးခေါင်းဆောင် ဖြစ်သူက မဖြောင့်မမတ် ကြံစည်လုပ်ကိုင်ပါက နောက်လိုက်ငယ်သားများလည်း မဖြောင့်မမတ် လုပ်ကိုင်ကြသည်။

(စကားပုံ)

## အပေါ်ယံရွှေမှုန်ကြဲ၊ အထဲက နွားချေးခံ

အပေါ်ယံရွှေမှုန်ကြဲထားသဖြင့် ဝင်းဝါနေသော်လည်း အတွင်းသားမှာမူ နွားချေးအတိသာ ဖြစ်သကဲ့သို့ အပေါ်ယံမျက်နှာပန်းအားဖြင့် အမြင်လှသော်လည်း အတွင်းအနှစ်သာရအားဖြင့် အလွန်ညံ့ဖျင်းသည်။

(စကားပုံ)

## မသာလက်ဖက်ထုပ်နှင့် မျက်နှာလုပ်

အိမ်သို့လာသည့် ဧည့်သည်အား အသုဘအိမ်မှ ကမ်းထားသော လက်ဖက်ထုပ်ဖြင့် ပြုစုဧည့်ခံသကဲ့သို့ အလကားရထားသော ပစ္စည်းကို လက်ဆောင်ပြု၍ မျက်နှာလုပ်သည်။

(စကားပုံ)

# လေ့ခွက်ချည်းကျန် အလံမလှဲ။

စစ်တိုက်ရာ၌ စစ်လှေတွင် အခြားစစ်သည်များ
အားလုံးကျဆုံးသွား၍ လှေခွက်ချည်းကျန်သော်လည်း
အလံကိုင်သူသည် အလံကိုမလှဲဘဲ ဇွဲဖြင့် စိုက်ထူထား
သကဲ့သို့ အလုပ်တစ်ခုလုပ်ရာတွင် အခက်အခဲဆုံး
အခြေအနေရောက်စေကာမူ အရှုံးမပေးဘဲ ကြံ့ကြံ့ခိုင်သည်။

## ရွှာဘုရား ရွှာသားမရှိသေ

ရွှာဘုရားကို ရွှာသားတို့ မြင်နေကျဖြစ်၍ ရှိသေမှု လျော့နည်းသကဲ့သို့ မိမိအနီးအပါးရှိ တန်ဖိုးရှိသော အရာကို တန်ဖိုးထားရမှန်း မသိ ဖြစ်သည်။

(စကားပုံ)

## ရေများရေနိုင်၊ မီးများမီးနိုင်

မီးလောင်ရာတွင် မီးက အားသာလျှင် မီးက အနိုင်ရပြီး ရေက အားသာလျှင် ရေက အနိုင်ရသကဲ့သို့ အင်အားများရာက လွှမ်းမိုး အနိုင်ရသည်။

(စကားပုံ)

# အိတ်ပေါက်နှင့် ဖားကောက်

အိတ်ပေါက်နှင့် ဖားကောက်သကဲ့သို့ တစ်ဖက်မှ ရလာသမျှ တစ်ဖက်မှ ကုန်သွားသည်။

(စကားပုံ)

## ဘယ်ကျွဲစားစား ဖြုံမခေါင်း

မည်သည့်ကျွဲပင်စားစေ ဖြုံမအမည်ရှိ ကျွဲမကြီးသာ ထင်မြင်စွပ်စွဲခြင်း ခံရသကဲ့သို့ မည်သူ့လက်ချက်ပင် ဖြစ်စေ တစ်ဦးတစ်ယောက်တည်းသာ ထင်မြင်စွပ်စွဲ ခြင်း ခံရသည်။

(စကားပုံ)

## ရှာလွှန် ရှက်တိုက်

မိမိဆိုက်ကပ်ရမည့် ရွာကို ကျော်လွန်၍ ရှက်တိုက်သွားသော လှေသမားကဲ့သို့ မိဘဆရာ လူကြီးသူမတို့ကို ကျော်လွန်၍ ပြုမူသည်။

(စကားပုံ)

## မစားရလျှင် အလျှင်း၊ စားရလျှင် ဆီထမင်း

မစားရလျှင် အလျှင်း မစားဘဲနေမည်၊ စားရလျှင် ရိုးရိုးထမင်းကို မစား၊ ဆီထမင်းကိုမှ စားသည် ဆိုသကဲ့သို့ ရိုးရိုးသာမန်ကို လက်မခံ၊ အများထက် ထူးခြားသာလွန်မှ လက်ခံသည်။

(စကားပုံ)

## မုန့်ပေးသည့် ဘုန်းကြီး ကျမ်းတတ်သည်

မုန့်ပဲသရေစာ စွန့်လေ့ရှိသော ဘုန်းတော်ကြီးကို ကျမ်းဂန်တတ်မြောက်ပါပေသည်ဟု ချီးမြောက် ပြောဆိုသကဲ့သို့ မိမိအား ပေးကမ်းသူကို တော်သည်၊ ကောင်းသည်ဟု အသိအမှတ်ပြုသည်။

(စကားပုံ)

# အနူတော လူချော

အနာကြီးရောဂါကြောင့် ရုပ်ဆင်းပျက်နေသူများ အလယ်တွင် အကျည်းတန်သူက လူချောလူလှ ဖြစ်နေသကဲ့သို့ သုံးမရအောင် ညံ့ဖျင်းနေသူများထဲတွင် ခပ်ညံ့ညံ့လူက လူတော် ဖြစ်နေသည်။

(စကားပုံ)

## ဘီလူးစည်း၊ လူ့စည်း။

ဘီလူးအတွက် ဘီလူးစည်း၊ လူအတွက် လူ့စည်း ပိုင်းခြား သတ်မှတ်ထား သကဲ့သို့ အကောင်းနှင့် အဆိုး၊ သူ့ဘက်ကိုယ့်ဘက် ပိုင်းခြား သတ်မှတ်သည်။

(စကားပုံ)

## မခေါ်လျှင် အထူးရသက်သာ

မခေါ်ပါက အထူးရသက်သာသကဲ့သို့ အသိအမှတ်မပြုလျှင် တာဝန်ပင်ပေါ့သေးသည်။

(စကားပုံ)

## မင်းဆရာပြော လောစရာမလို

မင်းဆရာကိုယ်တိုင်က ပြောသောစကားဖြစ်သည့်အတွက် မှားသလား၊ မှန်သလား သံသယဝင်စရာ မလိုသကဲ့သို့ ပညာကြီးရင့်သူတို့၏ အဆိုအမိန့် အစီအမံများကို သံသယဝင်စရာ မလိုပေ။

(စကားပုံ)

## မစားရသည့်အမဲ သဲနှင့်ပက်

မိမိ မစားရသည့် အမဲကို သူတစ်ပါးလည်း မစားနိုင်အောင် သဲနှင့် ပက်သကဲ့သို့ မိမိ မရနိုင်သည့်အတူတူ သူတစ်ပါးလည်း မသုံးနိုင်အောင် ဖျက်လိုဖျက်ဆီးလုပ်သည်။

(စကားပုံ)

## အရှင်မွေး နေ့ချင်းကြီး

အရှင်မွေး နေ့ချင်းကြီး ဆိုသကဲ့သို့ အကြီးအကဲ ချီးမြှင့်မြှောက်စားလျှင် နေ့ချင်းညချင်း ကြီးပွား ချမ်းသာသည်။

(စကားပုံ)

## မဲနှင့် နီပါး အတူထား နီပါး မဲစော်နံ

နီပါးထည်နှင့် မဲဆိုးထည်တို့ကို အတူ ထားသည့်အခါ မဲဆိုးထည်၏ အနံ့ဆိုးသည် နီပါးထည်သို့ ကူးစက်သကဲ့သို့ ကောင်းသောသူသည် မကောင်းသောသူနှင့် အတူ ပေါင်းဖေါ်၍ မကောင်းသောအကျင့်ဆိုးများ ကူးစက်ခံရသည်။

(စကားပုံ)

မဲ = မဲနယ်ဆိုးဆေး၊ နီပါး = အနီရောင်ဆိုးဆေး

## မစားရ ဝမခန်း (စကားပုံ)

တကယ်မစားရသော်လည်း ပြောသွားပုံမှာ ကြားရသည်နှင့်ပင် ဝမ်းဝလုနီးပါး ဖြစ်သကဲ့သို့ လက်တွေ့မခံစားရသော်လည်း ကြားရသည်ကမူ ယခုလက်ငင်းပင် လိုရာရတော့မလောက် ဖြစ်သည်။

## ရှင်မပြုခင်က လူထွက်ချင်

မောင်ရှင်လောင်းသည် ရှင်မပြုခင်ကပင် လူထွက်ချင်နေသကဲ့သို့ မမွေ့လျော်သော အလုပ်တစ်ခုကို မလုပ်ဆောင်မီကပင် ထိုအလုပ်မှ မြန်မြန် လွတ်မြောက်ချင်စိတ်စောနေသည်။

(စကားပုံ)

## အိမ်သာလို့ ညည်းလာ

အိမ်၏ အခြေအနေ သာယာကောင်းမွန်သဖြင့် ညည်းသည် အရောက်အပေါက် များသကဲ့သို့ တိုင်းပြည်မြို့ရွာ အေးချမ်းသာယာလျှင် အရပ် လေးမျက်နှာမှ ရှင်လူအများ ဝင်ထွက်သွားလာမှု များသည်။

(စကားပုံ)

# လူမတတ်ပေမဲ့ လက်ဖက်ထုပ်တတ်

လူကိုယ်တိုင် မတတ်စွမ်းသော်လည်း လက်ဖက်ထုပ်လက်ဆောင်ဖြင့် ချဉ်းကပ်က တတ်စွမ်းသကဲ့သို့ မိမိကိုယ်တိုင်မစွမ်းဆောင်နိုင်သော ကိစ္စကို စွမ်းဆောင်နိုင်သူအား ချဉ်းကပ်ခြင်းဖြင့် ပြီးမြောက်သည်။

(စကားပုံ)

# အမြီးကျက် အမြီးစား၊ ခေါင်းကျက် ခေါင်းစား

အမြီးပိုင်းကျက်လျှင် အမြီးပိုင်း၊ ခေါင်းပိုင်းကျက်လျှင် ခေါင်းပိုင်းစားသကဲ့သို့ ရေရှည်အကျိုးကိုမကြည့် လတ်တလော အကျိုးအတွက် ရလျှင် ရသလို အမြတ်ထုတ်သည်။

(စကားပုံ)

## ရွှေတောင်နား ရွှေကျီး

ကျီးကန်းသည် ရွှေတောင်မှာ နားသဖြင့်သာ ရွှေကျီး အခေါ်ခံရသကဲ့သို့ ဂုဏ်အရည်အချင်း မရှိသူသည် ဂုဏ်သရေရှိ အသိုင်းအဝိုင်းသို့ ရောက်ရှိလာသဖြင့်သာ ဂုဏ်ရှိသူဟု အခေါ်ခံနေရခြင်း ဖြစ်သည်။

(စကားပုံ)

## လွတ်တဲ့ငါး ကြီး (စကားပုံ)

လွတ်သွားသည့်ငါးကို ကြီးသည်ဟု ထင်တတ်သကဲ့သို့ မိမိမရရှိ မပိုင်ဆိုင်လိုက်ရသော အရာကို နဂိုအရှိထက် ပို၍ အထင်ကြီးသည်။

## ဗျိုင်းမှန်လျှင် ခြေစိမ်း

ဗျိုင်းငှက်မျိုး မှန်ပါက ခြေထောက် စိမ်းသကဲ့သို့ စစ်မှန်သောအရာတွင် အစစ်အမှန် ဖြစ်ကြောင်း အမှတ်လက္ခဏာတစ်ခုခု ရှိစမြဲ ဖြစ်သည်။

(စကားပုံ)

မြန်မာစကားပုံ

## ဟိုကွေ့ရောက် ဟိုတက်နှင့်လှော်၊
## ဒီကွေ့ရောက် ဒီတက်နှင့်လှော်။

လှေနှင့်သွားရာတွင် မြစ်ချောင်းအကွေ့အကောက် ရှိသည့်အလိုက် အဆင်သင့်ရာ တက်ကို အသုံးပြု ရသကဲ့သို့ လုပ်ငန်းတစ်ခုဆောင်ရွက်ရာတွင် အခြေ အနေအရ သင့်လျော်မည့်နည်းလမ်းကို လိုအပ်သလို ပြောင်းလဲကျင့်သုံးသည်။

(စကားပုံ)

## အကန်းထဲမှာ မျက်ခမ်းက လူမော်

လုံးဝမမြင်သူများကြားတွင် အနည်းငယ် မြင်နိုင်စွမ်းရှိသည့် မျက်ခမ်းစပ်သူက လူတော်လူမော်ဖြစ်နေသကဲ့သို့ လုံးဝ သုံးမရသူများအကြား၌ ခပ်ညံ့ညံ့သမားက လူတော် ဖြစ်နေသည်။

(စကားပုံ)

## လင်းနို့ခွန်တောင်း ကြွက်၊ ကြွက်ခွန်တောင်း လင်းနို့။

လင်းနို့သည် လင်းနို့ခွန်တောင်းလျှင် ကြွက်၊ ကြွက်ခွန်တောင်းလျှင် လင်းနို့ဟုဆိုကာ အခွန်ပေးဆောင်ရန် ရှောင်တိမ်းသကဲ့သို့ မိမိရင်ဆိုင်ရမည့် ကိစ္စ၌ အကျိုးမဝင်သယောင် မလိမ့်တပတ် လုပ်ကာ ရှောင်တိမ်းသည်။

(စကားပုံ)

## လေဖမ်း ဒန်းစီး

လေကို ဖမ်းပြီး ဒန်းစီးသည် ဆိုသကဲ့သို့ မရေရာသည်၊ မဖြစ်နိုင်သည်ကို အဟုတ်ထင်မှတ် ပြောဆိုသည်။

(စကားပုံ)

## ရေစီးတစ်ခါ၊ ရေသာတစ်လှည့်။

ရေကြောင်းခရီးတစ်လျှောက်တွင် ရေစီးသန်သည်နှင့် ကြုံသည့်အခါ ကြုံ၍ ရေသာသည်နှင့် ကြုံသည့်အခါလည်း ကြုံသကဲ့သို့ ဘဝခရီးတစ်လျှောက်တွင် ပင်ပန်းခက်ခဲခြင်းနှင့် ကြုံသည့်အခါ ကြုံ၍ အဆင်ပြေချောမွေ့ခြင်းနှင့် ကြုံသည့်အခါလည်း ရှိသည်။

(စကားပုံ)

သူတစ်ပါး၏ ဝက်ကို အငှားမွေးပေးရသူသည် မိမိ
သဘောအတိုင်း လုပ်ပိုင်ခွင့် မရှိသကဲ့သို့ ပတ်သက်
နေသော်လည်း ပိုင်ဆိုင်သည်မဟုတ်သောကြောင့် မိမိ
သဘောနှင့် အစိုးတရ စီမံပိုင်ခွင့်မရှိ ဖြစ်သည်။

(စကားပုံ)

## ရေနက်ကလည်း နေရ၊ လင်းပက်လည်း စိုက်ရ

စုပေါင်းငါးဖမ်းရာ၌ လင်းပက်ပိုက်ကို စိုက်ထုတ်ပေးရသူဖြစ်ပါလျက် ပိုက်ဆွဲရာတွင် ရေတိမ်ပိုင်းက နေခွင့်မရဘဲ ရေနက်ပိုင်းက နေရသည်ဆိုသကဲ့သို့ မိမိက အရင်းအနှီး စိုက်ထုတ်ပေးရပါလျက် ပို၍ အပင်ပန်းခံကာ လုပ်ဆောင်ရသည်။

(စကားပုံ)

လင်းပက် = မြစ်ချောင်းစသည့် ရေတိမ်ကမ်းစပ်တွင် ငါးဖမ်းရာအသုံးပြုသော ဆွဲပိုက်တစ်မျိုး။

## ဝါးဂွမ်းတစ်လှည်း ဖုတ်၍ အကျွမ်းမရ

လှည်းတစ်စီးတိုက်ရှိသော ဝါးဂွမ်းကို မီးဖုတ်သော်လည်း လောင်ကျွမ်းပြီး ပစ္စည်းအစအန မရနိုင်သကဲ့သို့ မည်မျှပင် ကြိုးစားလုပ်ဆောင်သော်လည်း အကျိုးမရဖြစ်သည်။

(စကားပုံ)

## မစားရက် လောက်တက်

မစားရက် မသောက်ရက် ထား၍ လောက်တက်ပြီး ပျက်စီးသွားသကဲ့သို့ မနှမြောသင့်သည်ကို နှမြောမိပြီး မသုံးမစားဘဲထား၍ အလဟဿ ပျက်စီးသွားသည်။

(စကားပုံ)

## မစားရတပူပူ၊ စားရတဆူဆူ။

ကလေးများသည် မစားရမချင်း တပူပူ တဆာဆာ တောင်းကြပြီး စားခွင့်ရသောအခါ သူထက်ငါ ဦးအောင် တဆူဆူတညံညံ ရှိပြန်သကဲ့သို့ အခွင့်အရေးမပေးမီ တပူပူတညံညံ တောင်းခံကြပြီး အခွင့်အရေးပေးပြန်သော်လည်း အဝေမတည့် မကျေမနပ်ဖြစ်ကြနှင့် တဆူဆူရှိပြန်သည်။

(စကားပုံ)

## “အင်း” ကောင်း “ဗျာ” မတန်

စေတနာကောင်းလျှင် “အင်း” လိုက်ခြင်းက “ဗျာ”ဟု သုံးခြင်းထက် တန်ဖိုးရှိသကဲ့သို့ စေတနာစစ်မှန်လျှင် အမူအရာပင် ရိုင်းသော်လည်း လောကွတ် ပြုသည်ထက် တန်ဖိုးရှိသည်။

(စကားပုံ)

## လာလာချင်း ဆောက်နှင့်ထွင်း (စကားပုံ)

ပန်းပုထုလုပ်ရာ၌ ရှေးဦး ကြိုတင်ပြင်ဆင်လုပ်ဆောင်ဖွယ်တို့ကိုမျှ မလုပ်တော့ဘဲ လာလျှင်လာချင်း ဆောက်ကို ကိုင်၍ ထွင်းသည်ဆိုသကဲ့သို့ နိဒါန်းပင်မပျိုးတော့ဘဲ ကိုယ်လိုရာကိုသာ မထောက်မထား ပြုမူပြောဆိုသည်။

## အရှုးအရှူးနှင့် အိမ်ဦးချေးပါ

စိတ်မနှံ့သူဖြစ်၍ ခွင့်လွှတ်ထားသည်ကို အခွင့်ကောင်းယူကာ အိမ်ဦးတွင် စော်စော်ကားကား မစင်စွန့်သကဲ့သို့ ခွင့်လွှတ်ထားသည်ကို အခွင့်ကောင်းယူကာ စော်ကားမော်ကား ပြုမူသည်။

(စကားပုံ)

## မုန်ကို မဲပြု၊ မဲကို မုန်ပြု

မုန်ကို မဲဖြစ်အောင်၊ မဲကို မုန်ဖြစ်အောင် လုပ်သကဲ့သို့ ဗလောင်းဗလဲ ပြောင်းတီပြောင်းပြန် ပြုလုပ်သည်။

(စကားပုံ)

မုန် = အခေါက်မှ မဲပြာရောင်ဆိုးဆေး ထုတ်လုပ်ရသောအပင်။
မဲ = အရွက်မှ မဲနယ်ဆိုးဆေး ထုတ်လုပ်သောအပင်။

## ရွာနားကမြက် ရွာနွားမစား

ရွာအနီး စားကျက်ရှိမြက်ကို ရွာက နွားများ မစားသကဲ့သို့ မိမိအနီးအနားရှိ မြင်နေကျအရာကို နှစ်သက်ရမှန်းမသိ ဖြစ်သည်။

(စကားပုံ)

## မလုံတဲ့အိုး တုတ်မိုးရှုံနဲ့အာ (စကားပုံ)

အက်ရာရှိနေသည့်အိုးသည် တုတ်ဖြင့် ရွယ်ရုံမျှနှင့် ကွဲဟလာသည်ဆိုသကဲ့သို့ တစ်စုံတစ်ခုအတွက် စိတ်မလုံသူသည် ခြိမ်းခြောက်သည်ထင်ကာမျှနှင့် ဣန္ဒြေမဆောင်နိုင်ဘဲ ဖွင့်ဟသည်။

"ဟိုဧည့်သည်ကိုလည်း တယ်အရေးစိုက်ပါကလားဟု ငေါ့တော့တော့ မျက်နှာထားနှင့် ပြောလိုက်သောအခါမှာ အတင့်မှာ မလုံတဲ့အိုး တုတ်မိုးရှုံနဲ့အာ သလိုမျက်နှာမချိုမချဉ်ဖြစ်သွားပြီး. . "

## အမေကျော် ထွေးတော် လွှမ်း

မိခင်ရင်းကို ကျော်၍ ထွေးတော်ကို လွှမ်းသကဲ့သို့ သွေးနီးရာကို အားမကိုးဘဲ တစ်ပါးသူ ပိုမို အားကိုး သည်။

ထွေးတော် = မိခင်၏ ညီမ

(စကားပုံ)

## အခေါ်သာကွဲ ထမနဲနှင့် ယာဂု အတူတူ

ထမနဲနှင့် ယာဂုသည် အခေါ်အဝေါ်အားဖြင့် ကွဲသော်လည်း အတူတူပင် ဖြစ်သကဲ့သို့ တစ်ခုနှင့် တစ်ခုသည် အသွင်သဏ္ဌာန် အနှစ်သာရအားဖြင့် ကွဲသော်လည်း အတူတူပင်ဖြစ်သည်။

(စကားပုံ)

# မြင်းနောက်ပြန်စီး ထီးရှေ့ကကွယ်

ထိုက်ထိုက်တန်တန် ချီးမြှင့် မြှောက်စားခါမှ မြင်းကို နောက်ပြန်စီးခြင်း၊ ထီးကို ရှေ့ကကွယ်၍ ဆောင်းခြင်း ပြုသူကဲ့သို့ အထင်တကြီး မြှောက်စားခါမှ မဖွယ်မရာ ပြုမူပြောဆိုသည်။

(စကားပုံ)

## လူမစွမ်း နတ်မ

မစွမ်းမသန်သူကို နတ်က ကူညီစောင်မတတ်သည် ဆိုသကဲ့သို့ ကိုယ်တိုင် မစွမ်းဆောင်နိုင်သော အခြေအနေမျိုးတွင် ကူညီထောက်ပံ့မည့်သူ ပေါ်လာသည်။

(စကားပုံ)

## ရတနာရှိရာ ရတနာစု

ရတနာရှိရာသို့ ရတနာများ စုဝေးရောက်ရှိလာတတ်သကဲ့သို့ အကောင်းအမွန်များရှိရာ၊ များရာသို့ အကောင်းအမွန် ဥစ္စာ စသည် ထပ်၍ ရောက်ရှိလာသည်။

(စကားပုံ)

## ယိုသူမရှက်၊ မြင်သူရှက်။

ယိုသူမရှက်တတ်၍ မရှက်သော်လည်း မြင်သူရှက်ရသကဲ့သို့ အများအမြင်တွင် မဖွယ်ရာသောကိစ္စကို ပြုသူက မရှက်သော်လည်း မြင်သူက ရှက်ရသည်။

(စကားပုံ)

## မြင်းက မလှုပ်၊ ခုံက လှုပ်

မြင်းက မလှုပ်ပါဘဲလျက် မြင်းချည်သော ခုံတိုင်က လှုပ်ရှားသည် ဆိုသကဲ့သို့ သဘာဝအလျောက် စတင်လှုပ်ရှားရမည့်သူက မလှုပ်ရှားဘဲ ဣန္ဒြေစောင့်ထိန်း၍ ငြိမ်ငြိမ်နေရမည့်သူက လှုပ်ရှားသည်။

(စကားပုံ)

## မိုးကြိုးပစ် ထန်းလက်ကာ

မိုးကြိုးပစ်သည်ကို လုံလိုလုံငြား ထန်းလက်ဖြင့် ကာ-
သည်ဆိုသကဲ့သို့ အပြစ်ရှိသူက အပြစ်ပေါ့လိုပေါ့ငြား
မခိုင်လုံသော ဆင်ခြေပေး၍ ကာကွယ်သည်။

(စကားပုံ)

## ဗိုင်းကောင်း ကျောက်ဖိ (စကားပုံ)

ကျောက်ပြားဖြင့် ဖိထားသော ဗိုင်းတောင့်သည် ပိပိရိရိ ရှိသကဲ့သို့ မိဘဆရာသမားတို့၏ စည်းကမ်း တကျ ထိန်းသိမ်းလာသော သားသမီး၊ တပည့်တို့သည် ပိပိရိရိ ကျွန်ုပ်သိက္ခာ ရှိသည်။

## မျောက်မြီးနှင့်မျောက် ချည် (စကားပုံ)

မျောက်ကို မျောက်မြီးနှင့် ချည်သည်ဆိုသကဲ့သို့ ပြင်ပမှ အကူအညီမရယူဘဲ ကိစ္စတစ်ရပ်နှင့် နှီးနွှယ်နေသည့် အခြင်းအရာဖြင့်ပင် ထိုကိစ္စကို ပြီးမြောက်အောင်မြင်စေသည်။

မြန်မာစကားပုံ

## အရက်ပြတ် ခွက်ကပ်နှင့်မူး

အရက်သမားတို့သည် အရက်ပြတ်လပ်ခိုက် ခွက်တွင် ကျန်သော အကပ်အသပ်နှင့်ပင် မူးရသည်ဆိုသကဲ့သို့ မတတ်သာသည့်အဆုံး ရရာနှင့်ပင် အာသာဖြေရသည်။

(စကားပုံ)

## မျက်စိအကျင့်၊ ဝမ်းအချင့်

အအိပ်မကြူးစေရန် မျက်စိကို ကျင့်ထား၍ ရ၏။ အစားမကြူးစေရန် ဝမ်းကို ချင့်စား၍ ရ၏။ ထို့အတူ အတိုင်းအရှည်နှင့် လျော်ညီအောင် လေ့ကျင့်ထား၍ ရသည်။

(စကားပုံ)

## အမေး ကျွဲကျောင်း၊ အဖြေ ဘုရားလောင်း

ကျွဲကျောင်းသာက မေးသည့်စကားကို ဘုရားလောင်းကမှ ဖြေနိုင်သည် ဆိုသကဲ့သို့ မေးသူအဖို့ မေးရလွယ်သလောက် ဖြေသူအဖို့ အဖြေရခက်သည်။

အမေးနွားကျောင်း၊ အဖြေဘုရားလောင်း ဟူ၍လည်း အသုံးရှိသည်။

(စကားပုံ)

## လယ်ထွန်သွား နွားမေ့

လယ်ထွန်သွားရာတွင် နွားမေ့ကျန်သကဲ့သို့ အလုပ်တစ်ခုလုပ်ရန် သွားရာတွင် အဓိကလိုအပ်သောအရာမေ့ကျန်သည်။

(စကားပုံ)

## လူမိုက် နတ်ပြည်တင် မြင့်တယ်ထင်လို့ ခုန်ချ

ကောင်းစေလို၍ လူမိုက်ကို နတ်ပြည်သို့တင်ပေးသော်လည်း မြင့်သည်ဟုထင်မှတ်၍ မပျော်ပိုက်နိုင်ဘဲ ခုန်ချသည်ဆိုသကဲ့သို့ ကောင်းရာကောင်းကြောင်း အတင်းအကြပ် ဆွဲဆောင်၍ မြှင့်တင်ပေးသော်လည်း မြင့်ရာ၌ မနေနိုင်ဘဲ ပြန်ဆင်းသည်။

(စကားပုံ)

## မရ ရသက ချိုင်

ရှေးက လူသားစားသော ပေါရိသာမင်းသည် လူသား မရသည့်အခါ၌ မိမိအား လူသားရှာဖွေကျွေးသူ စားတော်ကဲကိုပင် သတ်စားသကဲ့သို့ မိမိ တပ်မက်သောအရာကို အခြားတစ်ပါးမှ မရသည့်အဆုံး၌ အချင်းချင်းထံမှပင် မရှောင် ရအောင်ယူသည်။

(စကားပုံ)

ရသက (ပါ) = စားတော်ကဲ

မြန်မာစကားပုံ

## အလှည့်ကျ နွားမတောင်ရုန်းရ (စကားပုံ)

အလှည့်ကျသည့်အခါ နွားမသည်ပင် ထမ်းပိုးအောက်ဝင်၍ ရုန်းရသကဲ့သို့ မိမိအလှည့် ရောက်လာသည့်အခါ တာဝန်ကို ရှောင်လွှဲ၍မရ၊ ထမ်းဆောင်ရမည်သာဖြစ်သည်။

"အလှည့်ကျ နွားမတောင် ရုန်းရသေးတယ်၊ ကိုယ်လုပ်သရွေ့ ကိုယ့်အိမ်ဝင်းခြံကောင်းဖို့အရေးတော့ဘယ်သူမျှ ညည်းညူနေဖို့မလို။"

## လျှော်မွေးနှင့် ဗာရာဏသီခဲ့

လျှော်မွေး၏ မိခင်က ထိုကလေးအတွက် ငိုကြွေးရာတွင် ဗာရာဏသီကိုချီ၍ အကျယ်ခဲ့ကာ ဖွဲ့နွဲ့ငိုသကဲ့သို့ မပြောပလောက်သော ကိစ္စကို အကျယ်ခဲ့သည်။

(စကားပုံ)

## အိမ်ရှေ့က ရေတွင်း အိမ်နောက်ဖေး ရွှေ့

အိမ်ရှေ့တွင်ရှိသော ရေတွင်းကို အိမ်နောက်သို့ ရွှေ့ခိုင်းသည်ဆိုသကဲ့သို့ မဖြစ်နိုင်သည့် ကိစ္စကို ဆောင်ရွက်ခိုင်းသည်။

(စကားပုံ)

## လူများ၏ ပွဲမစည်

လူများသော်လည်း ပွဲနှင့်တူအောင် စည်စည်ကားကား မဖြစ်သကဲ့သို့ လုပ်ကိုင်ဆောင်ရွက်နိုင်မည့် အင်အားများပါသော်လည်း လုပ်ငန်း မထိရောက်ဘဲ ရှိသည်။

(စကားပုံ)

## အရိပ်သုံးပါးနားမလည်
## ချေသငယ် ကျားစာဖြစ်ရ

ကျား၏ အရိပ်အယောင်၊ အသံဗလံ၊ အနံ့အသက် ဟူသော အရိပ်အခြည်သုံးပါးကို မရိပ်စားမိသော ချေသငယ်သည် ကျား၏အစာဖြစ်ရသကဲ့သို့ အခါကာလ၊ ဝန်းကျင်အနေအထား၊ အတိုင်းအဆကို မချင့်ချိန်နားမလည်သူသည် ဒုက္ခဖြစ်ရသည်။

(စကားပုံ)

## ယောက်ဖ၊ ယောက်ဖနှင့် ပတောက်နှိုက်

ယောက်ဖ၊ ယောက်ဖဟု ရင်းရင်းနှီးနှီးခေါ်၍ ပတောက်ထဲမှ ပစ္စည်းကို မသိမသာ နှိုက်ယူသကဲ့သို့ နှုတ်ဖြင့် ရင်းနှီးအောင်ပြုကာ အခွင့်အရေးကို မသိမသာ ယူသည်။

(စကားပုံ)

## အတောင့်မကြီး အသီးမမာ။ (စကားပုံ)

သီးတောင့်တို့သည် အတောင့်မကြီးက အသီးလည်း မရင့်မာသကဲ့သို့ အတွေ့အကြုံနှင့် လေ့လာမှုအခြေခံအားနည်းက ရင့်ကျက်ခြင်း မရှိချေ။

'အတောင့်မကြီး အသီးမမာ၊ မိုက်ရှာကြွလို့ မောင်ပုတို့ပင်၊ ဤသို့ကျူးကျော်၊ လွန်မိသော်လည်း။"

# ဝှေ့တတ်သည့် နွားကို ရှောင်ပြန်၊ ကန်တတ်သည့် နွားနှင့် ညား။ (စကားပုံ)

ဝှေ့တတ်သည့် နွားကို မဝယ်မိအောင် ရှောင်ပါမှ ကန်တတ်သည့် နွားကို ဝယ်မိလျက်သား ဖြစ်ရသည် ဆိုသကဲ့သို့ အဆိုးတစ်ခုကို လွတ်အောင် ရှောင်ကွင်းပါမှ အလားတူ အဆိုးတစ်ခုနှင့် ပက်ပင်း တိုးပြန်သည်။

"ဝှေ့တတ်သည့် နွားကို ရှောင်ပြန်၊ ကန်တတ်သည့် နွားနှင့် ညား။
ကျားကိုကြောက်၍ ရှင်ကိုကိုး၊ ရှင်ညို ကျားထက်ဆိုး။"

မြန်မာစကားပုံ

## မင်းဘဏ္ဍာ ကိုယ့်ဟာမှတ်လို့ တပြုံးပြုံး

မင်းဘဏ္ဍာကို မိမိကိုယ်ပိုင် ပစ္စည်းမှတ်ယူ၍ အလွယ်တကူ ယူ၍ ဝမ်းသာအားရ သုံးသကဲ့သို့ သူတစ်ပါးပိုင် ပစ္စည်းဥစ္စာကို အလွယ်တကူယူ၍ ဝမ်းသာအားရ သုံးသည်။

(စကားပုံ)

## အချိန်တန်တော့ နွားပိန်ကန်လိမ့် (စကားပုံ)

နွားပိန်ပင်လျှင် ရုန်းကန်ရမည့် အချိန်ရောက်လာက မိမိနှင့်လျော်စွာ ရုန်းကန်ရမည်သာ ဖြစ်သကဲ့သို့ အချိန်အခါ ကျရောက်လာပါက အခြေအနေအားလျော်စွာ ဖြစ်ပြောက်လာမည်ဖြစ်သည်။

## မွှေးလျှင်ပန်၊ နံလျှင်ပစ်

မွှေးရနံ့ကြွယ်စဉ် ဦးခေါင်း၌ ပန်ဆင်ခဲ့သော်လည်း ရနံ့ပြယ်သည်နှင့် ထိုပန်းကို စွန့်ပစ်လိုက်သကဲ့သို့ သစ်လွင်စဉ်က တပ်မက်သော်လည်း ဟောင်းနွမ်းသည်နှင့် စွန့်ပစ်သည်။

(စကားပုံ)

## မရှုယ်ဘဲနှင့် စော်ကဲမင်းဖြစ်

မရှုယ်ဘဲနှင့် စော်ကဲမင်းဖြစ်သကဲ့သို့ ရည်ရွယ်မျှော်မှန်းထားခြင်းမရှိဘဲ အခွင့်အလမ်းကောင်းရသည်။

(စကားပုံ)

## ယောက္ခမ သေမှန်းသိ မြင်းဝယ်မစီးရလား

ယောက္ခမ သေမှန်းမသိ၍ မြင်းဝယ်မစီးလိုက်ရသူကဲ့သို့ အခြေအနေပေးမှန်း မသိ၍ အခွင့်အရေးကို မယူလိုက်မိဘဲ ရှိသည်။

(စကားပုံ)

## မိုးကို လင့်၍ ပျိုးရင့်သည်။

ရေသွင်း၍ စိုက်ပျိုးနိုင်ပါလျက် မစိုက်ဘဲ မိုးကို မျှော်ကိုးရင်း ပျိုးပင်များ ရင့်ပြီး စိုက်ချိန်လွန်သွားသကဲ့သို့ တစ်နည်းတစ်လမ်း ကြိုးစားလုပ်ကိုင်နိုင်ပါလျက် မလုပ်ဘဲ ပေါ်ပေါက်လာမည့် အခွင့်အလမ်းကို မျှော်ကိုးရင်း ဆောင်ရွက်ရန် အချိန်နှောင်းသွားသည်။

(စကားပုံ)

## မိုးလွန်မှ ထွန်ချ

မိုးရာသီ ကုန်လွန်မှ လယ်ထွန်ရန် စိုင်းပြင်းသကဲ့သို့ အချိန်လွန်မှ ပြုလုပ်ရန် ကြိုးစားအားထုတ်သည်။

(စကားပုံ)

## မပူလိုလို့ ယောင်းမရှာ (စကားပုံ)

ထမင်းအိုး ဟင်းအိုး မွှေရာတွင် လက်မပူရအောင် ယောက်မအသင့်ရှာထားသကဲ့သို့ မိမိမပင်ပန်းရအောင် အားကိုးအားထားရှာသည်။

## မိုးမပြိုဘူး၊ ပြိုခဲ့သော်

မိုးသည် ပြိုရိုးထုံစံမရှိသော်လည်း အကယ်၍ ပြိုသော်ဟု ကြိုတင်မျှော်တွေးသကဲ့သို့ မည်သို့မျှ မဖြစ်နိုင်သော အန္တရာယ်မျိုးပင် ဖြစ်သော်လည်း သတိနှင့် ကြိုတင် မျှော်တွေးရသည်။

(စကားပုံ)

## မြေစမ်း ခရမ်းပျိုး

မြေကောင်းမကောင်း ခရမ်းပင်ပျိုး၍ စမ်းသပ်သကဲ့သို့ လုပ်ငန်းတစ်ခုကို စမ်းသပ်လုပ်ကိုင်ကြည့်သည်။

(စကားပုံ)

## အမောင်လည်းရောက်၊ ငါ့နွားပျောက်။ (စကားပုံ)

တစ်စုံတစ်ဦးရောက်လာသောအချိန်နှင့် နွားပျောက်သည့်အချိန် တိုက်တိုက်ဆိုင်ဆိုင် ဖြစ်သကဲ့သို့ အမှုကိစ္စတစ်ခုအတွက် တိုက်ရိုက် မယိုးစွပ်သော်လည်း ယိုးစွပ်စရာကောင်းလောက်အောင် တိုက်တိုက် ဆိုင်ဆိုင် ဖြစ်သည်။

အမောင်လည်းရောက်၊ ငါ့နွားလည်းပျောက်၊ မောင့်ကိုနွားခိုး၊ ငါမယိုး ဟူ၍လည်း တွဲသုံးလေ့ရှိသည်။

## ဝက်နားရွက် ကြွက်တပ်

ဝက်၏နားရွက်ကို ကြွက်တွင်တပ်ဆင်သကဲ့သို့ အမြင်မတော်လောက်အောင် အရွယ်ပမာဏ မတူမမျှ ဆင်ယင်မွမ်းမံသည်။

(စကားပုံ)

## လက်သင့်ရာ စားတော်ခေါ်

ပွဲတော်တည်ရာတွင် ဟင်းခွက်များစွာထဲမှ လက်လှမ်းမီရာဟင်းကိုသာ စားတော်ခေါ်သကဲ့သို့ စဉ်းစားရွေးချယ်ရန် များစွာရှိသည့်အနက်မှ မိမိနှင့် နီးစပ်ရာကိုသာ အခွင့်အရေးပေးသည်။

(စကားပုံ)

## မြင်းကောင်း ခွာလိပ်

မြင်းကောင်းပင်ဖြစ်သော်လည်း မတော်တဆ ခွာလိပ် သကဲ့သို့ ပညာဉာဏ် ဝီရိယရှိသူပင် ဖြစ်သော်လည်း မတော်တဆ ချွတ်ချော် တိမ်းပါးသည်။

(စကားပုံ)

## လူချင်းတူသော်လည်း အသက်ရှူချင်းကွဲ

လူချင်းအတူတူပင်ဖြစ်သော်လည်း ကိုယ်ခန္ဓာ အနေအထားနှင့် ကျန်းမာရေး အခြေအနေအရ အသက်ရှူပုံချင်း ခြားနားသကဲ့သို့ အသိုင်းအဝိုင်း အတန်းအစား တူသူဖြစ်သော်လည်း စိတ်နေသဘောထားချင်း ခြားနားသည်။

(စကားပုံ)

## ရာဇဝတ်အိုး တုတ်နှင့်ထိုး

ရာဇဝတ်ပြစ်ဒဏ်ခတ်နိုင်သည့် အမှုမျိုးကို ကျူးလွန်မိသကဲ့သို့ အကြီးအကျယ် ပြဿနာဖြစ်နိုင်သည့် အမှုမျိုးကို ပြုသည်။

(စကားပုံ)

## ရေစုန် ရှက်တိုက်

ရေစုန်တွင် ရှက်တိုက်သကဲ့သို့ ကိစ္စတစ်ခုကို ခရီးထွင်စွာ ဆောင်ရွက်နေရာတွင် ပို၍ ခရီးထွင်အောင်၊ အခြေအနေကောင်းအောင် ပံ့ပိုးပေးသည်။

(စကားပုံ)

## မီးလောင်ရာ လေပင့် (စကားပုံ)

မီးလောင်ရာတွင် လေကကူပင့်တိုက်ခတ်ပေးသကဲ့သို့ အခြေအနေကို ပိုမိုဆိုးဝါးလာအောင် ဝင်၍ ပြုမူ ပြောဆိုသည်။

## မိန်းမကောင်းပန်းပန် တစ်ပွင့်တန်

မိန်းမကောင်းတို့ သဘာဝ ပန်းပန်လျှင် တစ်ပွင့်တည်း ပန်တတ်သကဲ့သို့ မိန်းမကောင်းတို့ သဘာဝ မျက်နှာ မများသင့်ပေ။

(စကားပုံ)

## လုံ့ဖျားပုစဥ်းနား၊ ကျီးကန်းချေးပါ။

လုံ့ဖျား၌ ပုစဥ်းနားသည်ကို ကျီးကန်းကမြင်ရာ မိမိနှင့် မသက်ဆိုင်ပါဘဲလျက် ကြောက်လန့်၍ ချေးပါသကဲ့သို့ အချို့သူတို့သည် ကိုယ်နှင့် မသက်ဆိုင်ပါဘဲလျက် သူတစ်ပါးကိစ္စ၌ ကြံဖန်တွေးတော၍ ကြောက်လန့်သည်။

(စကားပုံ)

# အပွဲပွဲ နွှဲခဲ့သမျှ သည်ပွဲမှာ နှပ်ပစ်ခံရ

အပွဲပွဲနွှဲခဲ့ရာတွင် အောင်မြင်ခဲ့ပြီး သည်တစ်ပွဲတွင်မှ နှပ်ဖြင့် ပစ်၍ ရှုတ်ချခြင်း ခံရသကဲ့သို့ အကြိမ်ကြိမ် ဆောင်ရွက်၍ အောင်မြင်ခဲ့လေသမျှ သည်တစ်ကြိမ်တွင်မှ ရှုတ်ချခြင်း ခံရသည်။

(စကားပုံ)

## အမယ်မှာ မှာသည့်အတိုင်း

အမယ်မှာသည့် ဆန်တစ်ခွဲ သုံးစိတ်နှင့်မလဲ
နှင့် အတူတူ

(စကားပုံ)

# မြွေမြွေချင်း ခြေမြင် (စကားပုံ)

မြွေအချင်းချင်းသာ မြွေ၏ ခြေလှမ်းကို သိမြင်သည် ဆိုသကဲ့သို့ အကြံတူသူအချင်းချင်းသာ တစ်ဦး၏ အရိပ်အခြေကို တစ်ဦးက သိမြင်သည်။

“ဖိုးလူလှကား သူဘယ်အချိုးချိုးနေသည်ကို မြွေမြွေချင်းသာ ခြေမြင်ပြီးသား ဖြစ်နေသည်။”

မြန်မာစကားပုံ

## လုပ်စားမိုးခေါင်၊ ခိုးစားခွေးဟောင်

စိုက်ပျိုးလုပ်ကိုင်စားသောက်လျှင်လည်း မိုးခေါင်သဖြင့် မလွယ်ကူ၊ ခိုးစားလျှင်လည်း ခွေးဟောင်သဖြင့် မလွယ်ကူ ဆိုသကဲ့သို့ မည်သည့်အလုပ်ကို လုပ်ကိုင်စားသောက်စေကာမူ အဆင်မပြေ ဖြစ်သည်။

(စကားပုံ)

## အမြှုတေရှိရာ အမြှုတေစု

အမြှုတေရှိရာ အမြှုတေများ စုဝေးရောက်ရှိလာသကဲ့သို့ အကောင်းမွန်များရှိရာ များရာသို့ အကောင်းအမွန် ဥစ္စာ စသည် ထပ်၍ ရောက်ရှိလာသည်။

ရတနာရှိရာ ရတနာစု နှင့် အတူတူ။

(စကားပုံ)

## အလျှောက်ကောင်း အထောင်းလွတ်

အကြောင်းကိစ္စတစ်ခုအတွက် အပြစ်မရှိကြောင်း ထုချေရာတွင် အတင်အလျှောက် ကောင်းလျှင် တံတောင်ဖြင့် ထောင်း၍ အပြစ်ပေးခံရမည့်ဘေးမှ လွတ်ကင်းသကဲ့သို့ အပြောအဆို ကျွမ်းကျင်လိမ္မာ၍ အကြောင်းပြကောင်းလျှင် ဝန်ကင်းသည်။

(စကားပုံ)

## ရလေ လိုလေ အိုတစ္ဆေ

တစ္ဆေသည် မည်မျှပင် စားရစေကာမူ မရောင့်ရဲ မတင်းတိမ်နိုင်သကဲ့သို့ အလိုကြီးသူသည် မည်မျှပင် ရစေကာမူ မရောင့်ရဲ မတင်းတိမ်နိုင်ပေ။

(စကားပုံ)

## လက်ညှိုးညွှန်ရာ ရေဖြစ်

အလောင်းစည်သူမင်းသည် ဖောင်တော်ဖြင့် တိုင်းခန်းလှည့်လည်ရာတွင် သွားလိုသော အရပ်သို့ လက်ညှိုးညွှန်ရုံဖြင့် ဖောင်တော်သွားရန် ရေပြင်ဖြစ်ပေါ်လာသည်ဆိုသကဲ့သို့ ဩဇာအရှိန်အဝါ ကြီးမားသူအဖို့ ဆန္ဒရှိ၍ စေလိုက်တိုင်း ဖြစ်ပေါ်လာသည်။

(စကားပုံ)

## လှူပ်လေ မြုပ်လေ

ရွှံ့နွံတွင်းမှ လွတ်မြောက်ရန် လှုပ်ရှားလေလေ ပို၍ နစ်မြုပ်လေလေ ဖြစ်သကဲ့သို့ အခြေအနေဆိုးမှ လွတ်မြောက်ရန် ကြိုးပမ်းလေလေ ပိုမို ဆိုးရွား လေလေ ဖြစ်သည်။

(စကားပုံ)

## လက်ညှိုးမကောင်း လက်ညှိုး၊
## လက်မ မကောင်း လက်မ။

လက်ညှိုးမကောင်းလျှင် လက်ညှိုး၊ လက်မ မကောင်းလျှင် လက်မကို ပယ်ဘိသကဲ့သို့ မကောင်းသူကိုသာလျှင် အပြစ်ယူရရိုး ရှိသည်။

(စကားပုံ)

## ဝမရှိဘဲ ဝိလုပ်

ဝလုံးပင် မရေးရသေးဘဲ ဝိဟူသော စားလုံးကို ရေးသည်ဆိုသကဲ့သို့ မိမိ ဘာမျှ အခြေခံမရှိဘဲ ဟန်ထုတ်ဝင့်ကြွားသည်။

(စကားပုံ)

## ဟောင်လွန်းသည့်ခွေး လူမလေး (စကားပုံ)

ဟောင်လွန်းသည့် ခွေးကို လူမကြောက် သကဲ့သို့ ဟောင်ဖွာဟောင်ဖွာနှင့် အမြဲမြည်တွန်တောက်တီး တတ်သူကို ကြောက်ရွံ့ရိုသေမှု နည်းသည်။

မမီသော ပန်းကို တုံးခု၍ လှမ်းဆွတ်သကဲ့သို့ မိမိထက် ဘဝအခြေအနေ သာလွန်မြင့်မားသူကို ရယူရန် ကြံရွယ်အားထုတ်သည်။

(စကားပုံ)

## အပ်ဝင် ပုဆိန်ထွက် (စကားပုံ)

အပ်ကလေးတစ်ချောင်း ဝင်သည့်အတွက် ပုဆိန် ထွက်သွားသကဲ့သို့ မဆိုသလောက် တန်ဖိုးရှိသည့် အရာ ရသည့်အတွက် အဆပေါင်းများစွာ တန်သည့် အရာ ဆုံးရှုံးသွားသည်။

"အပ်ဝင် ပုဆိန်ထွက်ဆိုသော စကားအရ မတရား သော ပစ္စည်းအနည်းငယ် ဝင်ရုံမျှနှင့် မိမိရှိပြီးသော ပစ္စည်းများစွာ နောက်တော်ပါ ခေါ်ဆောင်၍ သွား တတ်ပုံများကိုလည်း သတိထားသင့်သည်။"

## အပ်သွားရာ အပ်ချည်ပါ

အပ်သွားရာနောက်သို့ အပ်နဖားတွင် ထိုးထားသော အပ်ချည်သည် အမြဲလိုက်ပါနေရသကဲ့သို့ ရှေ့ဆောင်သူနောက်သို့ ထပ်ကြပ်မကွာ လိုက်ပါရမြဲ ဖြစ်သည်။

(စကားပုံ)

## ရေ နိမ့်ရာစီး၊ မီး မြင့်ရာလောင်။

ရေသည် နိမ့်ရာသို့ တစ်ဆက်တည်း စီးဆင်းသကဲ့သို့ လည်းကောင်း၊ မီးသည်အမြင့်ဘက်သို့ ကူးစက် လောင်ကျွမ်းသကဲ့သို့ လည်းကောင်း၊ အလိုရမ္မက်၊ အမျက်ဒေါသ မာန်မာန ကြီးမားသူသည် မိမိနှင့်တကွ မိမိနှင့်နီးနွယ် ပတ်သက်သူများကိုပါ ထိခိုက်အောင် ပျက်စီးစေတတ်သည်။

(စကားပုံ)

## ရွာသမုတ်လျှင် သစ်ငုတ်တိုသော်မှ ကျားဖြစ်ရ

သစ်ငုတ်စင်စစ်ဖြစ်ပါစေ တစ်ရွာလုံးက ကျားဟု ခေါ်ဝေါ်သမုတ်ပါက 'ကျား'ဟု အမည်ထွင်သွားသကဲ့သို့ အများက ခေါ်ဝေါ်သမုတ်လျှင် သမုတ်သည့်အတိုင်း တွင်ရသည်။

(စကားပုံ)

အများညီ 'ဤ' ကျွဲဖတ်- နှင့်အတူတူ။

## မီးစာကုန် ဆီခန်း

ဆီမီးခွက်၌ မီးစာလည်းကုန် ဆီလည်းခန်းသကဲ့သို့ အဘက်ဘက်က ဆုတ်ယုတ်ကုန်ခန်းလာသည်။

(စကားပုံ)

## မောင်မောင်ဆိုလေ ထီးရိုးရှည်

မောင်မောင်ဟု ဆိုလေလေ ဘဝင်မြင့်ပြီး ထီးရိုးကို ရှည်ရှည်လုပ်၍ ဆောင်းလေလေ ဆိုသကဲ့သို့ ချော့မော့မြှောက်ပင့်လေလေ ကဲလေလေ ဖြစ်သည်။

(စကားပုံ)

## အထိန်းမရှိသည့် ချည်ခင်။

အထိန်းမရှိသည့် ချည်ခင်သည် ရှုပ်ထွေးနေသကဲ့သို့ အထိန်းအကွပ် မရှိသောသူသည် ပရမ်းပတာ ဖြစ်နေသည်။

(စကားပုံ)

## ရှေ့တိုးထမ်းပိုး၊ နောက်ဆုတ်လှည်းထုပ်

ရှေ့တွင်လည်း ထမ်းပိုး၊ နောက်တွင်လည်း လှည်းထုပ်
အကြားရောက်နေရသော နွားကဲ့သို့ အခက်အခဲ နှစ်ခု
ကြားတွင် မတိုးသာ မဆုတ်သာ ရောက်ရှိနေသည်။

(စကားပုံ)

## ယာလည်းညက်၊ ကြက်လည်းပန်း။

ခွပ်နေသော တောကြက်နှစ်ကောင် မောပန်းသည့် အချိန်အထိ စိတ်ရှည်ရှည် စောင့်ဆိုင်းရင်း မိမိယာကို ထွန်ရေးမပျက် ထွန်သဖြင့် ယာလည်းညက်၊ ကြက်ကို လည်း အလွယ်တကူ ဖမ်းဆီးနိုင်သကဲ့သို့ ကိစ္စတစ်ခု ကို အခြေအနေပေးသည်အထိ စိတ်ရှည်ရှည် စောင့် ဆိုင်းရင်း လုပ်ဆောင်ဖွယ်တစ်ခုကို လုပ်နှင့်သဖြင့် အချိန်ပိုမကုန်ဘဲ အလုပ်နှစ်ခု ပြီးမြောက်သည်။

(စကားပုံ)

## အလာကောင်းသော်လည်း အခါနှောင်း

ဆိုက်ဆိုက်မြိုက်မြိုက် ရောက်ရှိလာခဲ့သော်လည်း
အချိန်နှောင်းသွားပြန်သဖြင့် မအောင်မြင်၊
မပြီးစီး၊ မပြုလုပ်ရခြင်းကို
ဆိုလိုသည်။

(စကားပုံ)

## အသည်ဝန် ဘုန်းကြီးလို့ ပါနောက်က ခြေကြွ

အသည်ဝန်သည် အာဃာရှိသည့် ရာထူးကို ရထားသဖြင့် ယင်း၏ နောက်ပါတပည့်ကပင် စိတ်ကြီးဝင်နေသကဲ့သို့ ဆရာ၏ အရှိန်အဝါကိုမှီ၍ တပည့်က မောက်မာနေသည်။

(စကားပုံ)

## အသွင်မတူ အိမ်သူမဖြစ် (ဆိုရိုးစကား)

စရိုက်လက္ခဏာ၊ အကျင့်စာရိတ္တ သဘောထား စသည်များ ကွဲပြားခြားနားလွန်းလျှင် ဇနီးမယားအဖြစ် ပေါင်းဖက်လက်ဆက်သွားရန် မဖြစ်နိုင်ကြောင်းဆိုလိုထားခြင်းဖြစ်သည်။

ပန်း၏ရနံ့သည် အနီးပတ်ဝန်းကျင်၌ မွှေးကြိုင်ပါမှ အဝေး၌လည်း မွှေးကြိုင်နိုင်မည် ဖြစ်သကဲ့သို့ မိမိ၏ ဝန်းကျင်အသိုင်းအဝန်း၌ ဂုဏ်သတင်းမွှေးကြိုင်ပါမှ အခြားအခြားသော ဝန်းကျင်အသိုင်းအဝန်း၌လည်း ဂုဏ်သတင်းမွှေးကြိုင်နိုင်မည်ဖြစ်သည်။

(စကားပုံ)

## အိမ်ခြေတစ်ရာ၊ ပြည်စိုးအစိတ်

အိမ်ခြေတစ်ရာမျှရှိသော ရွာတွင် ပြည်စိုးက အစိတ်မျှ ရှိနေသည် ဆိုသကဲ့သို့ ငယ်သားဦးရေနှင့် မလိုက် အောင် ခေါင်းဆောင်သူက များနေသည်။

(စကားပုံ)

# အဆိပ်ပင် ရေလောင်း

အဆိပ်ပင်ကို ရှင်သန်အောင် ရေလောင်းသကဲ့သို့ ဒုက္ခပေးမည့်သူကို အားပေးချီးမြှောက်သည်။

(စကားပုံ)

## အမှည့်တဝင်းဝင်း၊ အကင်းတဖြိုက်ဖြိုက်။

အပင်ပေါ်တွင် အသီးမှည့်များ တဝင်းဝင်းရှိနေခိုက် အကင်းများက တဖြိုက်ဖြိုက်နှင့် အလျင်ကြွေကျ သကဲ့သို့ သက်ကြီးရွယ်အိုများ သွားသွားလာလာ မြင်တွေ့နေရခိုက်မှာပင် ငယ်ရွယ်သူများက တဖြုတ်ဖြုတ် ကွယ်လွန်နှင့်ကြသည်။

(စကားပုံ)

## အိမ်သူကို ညှော်မောင်း

အိမ်ရှင်ကို ညှော်သည်က မောင်းထုတ်သည်ဆိုသကဲ့သို့ နေရာဌာနတစ်ခု၌ မူလရှိနှင့်ပြီးသူကို နောက်မှ ရောက်လာသူက လွှမ်းမိုးကြီးစိုးသည်။

(စကားပုံ)

## ဝင်ဝင်ချင်း ဆောက်နှင့်ထွင်း

ပန်းပုပြုလုပ်ရာတွင် ပြုလုပ်ရန် ပစ္စည်းရွေးခြင်း၊ ပုံကြမ်းလောင်းခြင်းစသည့် ကြိုတင်လုပ်ဆောင်ဖွယ် တို့ကိုမျှ မလုပ်တော့ဘဲ ဝင်လာလျှင်ဝင်လာချင်း ဆောက်ကို ကိုင်၍ ထွင်းသည်ဆိုသကဲ့သို့ နိဒါန်းပင် မပျိုးတော့ဘဲ စလျှင်စချင်း မိမိလိုရာကိုသာ မထောက်မထား ပြုမူပြောဆိုသည်။

(စကားပုံ)

# ရေငတ်တုန်း ရေတွင်းထဲကျ

ရေငတ်နေသူ ရေတွင်းထဲကျသဖြင့် အဆင်သင့် ရေသောက်ရသည်ဆိုသကဲ့သို့ မိမိ အလွန် အလိုရှိနေစဉ်တွင် လိုအပ်သောအရာကို အခန့်သင့်ရသည်။

(စကားပုံ)

## အိုးတော်လုပ်၊ ဖုတ်ရင်းက မကျက်။

အိုးတော်ဆက်သရန် ရည်မှန်းပြုလုပ်သမျှ အိုးကြီးများသည် ဖုတ်စဉ်ကပင် မကျက်သကဲ့သို့ အကြံကြီးကြံ၍ ဆောင်ရွက်သမျှသည် စကတည်းက ကောင်းမွန်သေချာခြင်းမရှိ ဖြစ်သည်။

(စကားပုံ)

## အပြက်အပြက်နှင့် နှာခေါင်းသွေးထွက်

အပြောင်အပြက် ကျီစားကစားရာမှ နှာခေါင်းဒဏ်ရာရ၍ သွေးထွက်သံယို ဖြစ်ရသကဲ့သို့ မဖြစ်တန်ကောင်းဟု ပေါ့ပေါ့တွက်ကာ ပြုလုပ်မိရာမှ ကြီးကျယ်သော ပြဿနာ ဖြစ်ပေါ်လာသည်။

(စကားပုံ)

## လှေပြေးတုန်း တက်ကျိုး (စကားပုံ)

လှေပြေးနေဆဲ တက်ကျိုးသွားသကဲ့သို့ အလုပ်တစ်ခု အရှိန်ရနေဆဲ အလွန်အရေးပါသည့်အရာ ပျက်စီးဆုံးရှုံးသွားသည်။

# အသွားတစ်တိုင်ရှိ အပြန်တစ်တိုင်ရှိ

အသွားတစ်တိုင် ခရီးရှိလျှင် အပြန်တစ်တိုင် ခရီးရှိသကဲ့သို့ တစ်ဦး၏စေတနာ အတိုင်းအတာရှိသလောက် တစ်ဦးက စေတနာတုံ့ပြန်မှုရှိသည်။

(စကားပုံ)

**အပ်ပျောက်လျှင် ဆင်စီး၍ရှာ၊**
**ဆင်ပျောက်လျှင် ဆန်ခါနှင့်ချ။**

အပ်ပျောက်သည်ကို ဆင်စီး၍ ရှာပြီး ဆင်ပျောက်သည်ကို ဆန်ခါနှင့် ချ၍ ရှာသကဲ့သို့ လုပ်သင့် လုပ်ထိုက်သည့် နည်းလမ်းဖြင့် မလုပ်ဘဲ မလုပ်သင့် မလုပ်ထိုက်သည့် နည်းလမ်းဖြင့် အဆင်ခြင်မဲ့ ကြိုးပမ်း လုပ်ဆောင်သည်။

(စကားပုံ)

## ရှင်ဘုရင်တစ်ခါထွက် ပဲကြီးတစ်လှေချက်

ရှင်ဘုရင်တစ်ခါထွက်တော်မူလျှင် မင်းခမ်းမင်းနားများ ခင်းကျင်းပြင်ဆင်ရသည်မှာ လှေတစ်စင်းစာ ပဲကြီးကို ချက်ရသလောက် ကြာသည်ဆိုသကဲ့သို့ အလုပ်တစ်ခုကို လုပ်ဆောင်ရန် အချိန်ယူပြင်ဆင်နေသည်မှာ ကြာလွန်းသည်။

(စကားပုံ)

## အိုးမလုံ အုံပွင့်

မခိုင်သော အိုးသည် ကိုယ်ထည်အုံပါ ပွင့်ထွက်သကဲ့သို့ စိတ်မလုံသူသည် လျှို့ဝှက်ချက်ကို မဖုံးကွယ်နိုင်ဘဲရှိသည်။

(စကားပုံ)

## အသံသာရှိ အဆန်မရှိ

သကြံ့န်အမြောက်သည် အသံသာမြည်၍ အဆန်မပါ သကဲ့သို့ အပြောဖြင့် ကြုံးဝါးမြည်ဟိန်းသော်လည်း တကယ် လက်တွေ့တွင် ဘာမျှ ထိရောက်မှု မရှိပေ။

(စကားပုံ)

## မျက်နှာလွှဲ ခဲပစ် (စကားပုံ)

ရောက်ချင်ရာရောက်ဟူသောသဘောဖြင့် မျက်နှာလွှဲ၍ ခဲကို ပစ်သကဲ့သို့ အလုပ်ကိစ္စကို ကိုယ်ဖိရင်ဖိ ကြပ်မတ်ခြင်းမရှိဘဲ လုပ်သည်။

## ရှင်ဘုရင့်ပုဆိုး ပိုးချည်း

ဘုရင်ဝတ်လဲတော်ပုဆိုးသည် ပိုးသားချည်း ဖြစ်သကဲ့သို့ ဂုဏ်အရှိန်အဝါကြီးသူတို့အတွက် အရာရာသည် အကောင်းစားချည်းသာ ဖြစ်သည်။

(စကားပုံ)

## လူတွင်ပါ၍ နွားကျားကိုက်

လူ၏ ပေါ့လျော့လစ်ဟင်းမှုပါသဖြင့်သာ နွားကျားကိုက်ခံရသကဲ့သို့ ကယယကံရှင်၏ ပေါ့လျော့လစ်ဟင်းမှုပါသဖြင့်သာ အကျိုးမဲ့ ဖြစ်ရသည်။

(စကားပုံ)

## ဝန်မတန်သည် စစ်ကဲ၊
## ထမင်းမတန်သည် ထမနဲ။

ရာထူးငယ်သည့် စစ်ကဲပင် ဖြစ်သော်လည်း ရာထူးကြီးသည့်ဝန်ကပင် မယှဉ်နိုင်။ ထမနဲ (ဆန်ပြုတ်)ပင် ဖြစ်သော်လည်း ထမင်းကပင် မယှဉ်နိုင်။ ထို့အတူ တကယ် အရည်အချင်းရှိလာပြီဆိုလျှင် ဂုဏ်အားဖြင့် ငယ်သော်လည်း ရင်းထက် ဂုဏ်ကြီးသည်ဟု ဆိုရသူများကပင် မယှဉ်နိုင်အောင် ရှိသည်။

(စကားပုံ)

မြန်မာစကားပုံ

## အိုးက မပူ၊ စလောင်းက ပူ။

မီးနှင့် တိုက်ရိုက်ထိတွေ့ရသော အိုးက မပူဘဲ မီးနှင့် မထိတွေ့ရသော စလောင်းကက ပူသကဲ့သို့ ကာယကံရှင်က မခံမရပ်နိုင်မဖြစ်ရဘဲ ဘေးလူက ဝင်၍ မခံမရပ်နိုင်ဖြစ်သည်။

(စကားပုံ)

မြန်မာစကားပုံ

## အလျှင်လို လမ်းအိုလိုက် (စကားပုံ)

လိုရာခရီးကို အလျင်အမြန်ရောက်လိုလျှင်သွားနေကျ လမ်းဟောင်းအတိုင်း လိုက်ရသကဲ့သို့ ကိစ္စတစ်ရပ်ကို အမြန်ပြီးစီးလိုလျှင် ဆောင်ရွက်နေကျ နည်းလမ်းဟောင်းအတိုင်း လုပ်ဆောင်ရသည်။

"အလျှင်လို လမ်းအိုလိုက် ဆိုတာကို ကြားဖူးတယ်မဟုတ်လား။ ဒီလိုအချိန်မျိုးမှာ အဖိုးတန်လေလေ၊ အကြံနွေးလေလေလို့ တွက်ပါ။"

## ဦးနင်း ပဲ့ထောင်၊ ပဲ့နင်း ဦးထောင်။

လှေဦးကိုနင်းလျှင် ပဲ့ကထောင်၍ ပဲ့ကိုနင်းလျှင် ဦးကထောင်သကဲ့သို့ တစ်ဖက်ကို နှိမ်နင်းလျှင် တစ်ဖက်က ထကြွသည်။

(စကားပုံ)

## မြစ်တစ်ဖက် ဝက်လက်ကင်

ဟိုဘက်ကမ်းရှိ မီးဖိုတွင် သည်ဘက်ကမ်းမှနေ၍ ဝက်လက်ကို မီးကင်သည် ဆိုသကဲ့သို့ စကားအဖြစ် ပြောရသော်လည်း တကယ်လက်တွေ့တွင် မဖြစ်နိုင်သည့် ကိစ္စ ဖြစ်သည်။

(စကားပုံ)

# အဝတ်မရှိသူက လုံအောင်ထိုင်ပါပြော

ပုဆိုး မဝတ်ထားသူက ပုဆိုး ဝတ်ထားသူအား လုံအောင်ထိုင်ပါဟု ပြောသကဲ့သို့ မှားနေသူက မမှားသူကို မှားယွင်းနေသည်ဟု ပြောဆိုသည်။

(စကားပုံ)

## ရွှေကျောင်းပြောင်ပြောင် ဝမ်းခေါင်ခေါင်

ရွှေချထားသောကျောင်းတွင် သီတင်းသုံးနေရသော်လည်း ဆွမ်းကွမ်းချို့တဲ့နေရသကဲ့သို့ အမြင်အားဖြင့် ချမ်းသာကြွယ်ဝဟန် ရှိသော်လည်း အမှန်တကယ်မူ ဆင်းရဲကျပ်တည်းနေသည်။

(စကားပုံ)

## လှေနံ့ နှစ်ဖက်နင်း

လှေတစ်စင်း၌ ရပ်တည်ခြင်း မပြုဘဲ လှေနှစ်စင်း၏ နံနှစ်ဖက်ကို ခွနင်းထားသကဲ့သို့ တစ်ဖက်ဖက်၌ ပြတ်သားစွာ မရပ်တည်ဘဲ ဟိုလိုလိုသည်လိုလို မပြတ်မသား ကျင့်သုံးသည်။

(စကားပုံ)

# အိမ်ရှေ့ပူ အိမ်နောက်မချမ်းသာ

အိမ်ရှေ့ခန်း၌ ရှိသူများ ပူပန်သောကဖြစ်နေကြစဉ် အိမ်နောက်ခန်း၌ ရှိသူများလည်း သာယာချမ်းမြေ့ခြင်း မရှိနိုင်သကဲ့သို့ ဦးဆောင် ဦးရွက်ပြုသူများ ပူပင်သောကဖြစ်နေကြလျှင် မှီခိုအားထားနေရသူများလည်း သာယာပျော်ရွှင်ခြင်း မရှိနိုင်။

(စကားပုံ)

## အရင်းစစ် အမြစ်မြေက

သစ်ပင်တစ်ပင်၏ အရင်းကို စီစစ်ရှာဖွေသောအခါ မြေ၌ ရှိသော အမြစ်ကို တွေ့ရသကဲ့သို့ ဖြစ်လာသမျှ အကောင်းအဆိုး အကျိုးတရားတို့ကို စီစစ်သော် အရင်းခံသော အကြောင်းတရားကို တွေ့ရမည်။

(စကားပုံ)

## လက်ခုပ်တွင်းကရေ
## သွန်လိုသွန်၊ မှောက်လိုမှောက်။

လက်ခုပ်တွင်းကရေသည် သွန်လိုကသွန်၊ မှောက်လို ကမှောက် ပြုသမျှ ခံရမည်သာ ဖြစ်သကဲ့သို့ တစ်ပါး သူ၏ လက်တွင်း၌ ကျရောက်နေသူသည် ပြုသမျှ ခံရမည်သာ ဖြစ်သည်။

(စကားပုံ)

## အလှူ့လက်ဖက်နှင့် လက်ဆောင်တက်

အလှူဖိတ်ရာတွင် ကမ်းသော လက်ဖက်ထုပ်ကို တစ်ပါးသူအား တစ်ဆင့် လက်ဆောင်ပေးသည် ဆို- သကဲ့သို့ သူတစ်ပါးထံမှ အလကားရထားသော ပစ္စည်းကို လက်ဆောင်ပြု၍ မျက်နှာလုပ်သည်။

(စကားပုံ)

## အနေစုတ်ပေမဲ့ ရွှေထုပ်တဲ့ မြပဝါ

ပဝါ၏ အခြေအနေမှာ စုတ်ချာနေပြီ ဖြစ်သော်လည်း ရွှေထုပ်သော မြပဝါ ဖြစ်သကဲ့သို့ အမြင်အားဖြင့် နုံချာသော်လည်း ကောင်းကျိုးကို သယ်ပိုးဆောင်ရွက်နိုင်သဖြင့် ဂုဏ်သိက္ခာမြင့်မားသောအရာ ဖြစ်သည်။

(စကားပုံ)

## လူနာ မျက်ဖြူဆိုက်လေ ဆရာကြိုက်လေ

လူနာ မျက်ဖြူဆိုက်လေ လူနာရှင်ထံမှ ငွေချူလို သည့် ဆေးဆရာက ကြိုက်လေဖြစ်သကဲ့သို့ သူ တစ်ပါး အကျပ်ရိုက်လေ အခွင့်ကောင်းယူလိုသူက ကြိုက်လေဖြစ်သည်။

(စကားပုံ)

## လက်နှင့်ရေး ခြေနှင့်ဖျက်

လက်နှင့်ရေးထားသည်ကို မလေးမစား ခြေနှင့် ဖျက်သကဲ့သို့ လူကြီးမိဘစသည်က ကောင်းရာကောင်းကြောင်း စီစဉ်ထားသည်ကို မလေးမစား ကဖျက်ယဖျက် လုပ်သည်။

(စကားပုံ)

## အနှစ်မရှိသည့်တော ကြက်ဆူပင် မင်းမူ

အနှစ်မရှိသည့် အပင်များ ပေါက်ရာတောတွင် အနှစ်သားအနည်းငယ်သာရှိသည့် ကြက်ဆူပင်က မင်းမူနေသည်ဆိုသကဲ့သို့ အရည်အချင်း မရှိသူများထဲတွင် အရည်အချင်း အတန်ငယ်ရှိသူက လူတတ်လုပ်နေသည်။

(စကားပုံ)

## အခိုင်ကြီးလည်း အဖီးလှမှ တင့်တယ်သည်။

ငှက်ပျောပင်သည် အခိုင်ကြီးရုံသာမက အဖီးပါလှမှ တင့်တယ်သကဲ့သို့ တိုင်းပြည်နိုင်ငံတို့တွင် စည်ပင်ဝဖြိုးသော မြို့ကြီးခရိုင်ကြီးများရှိမှသာ တင့်တယ်သည်။

(စကားပုံ)

## အများညီ 'ဤ' ကို 'ကွဲ' ဖတ်

အများက တညီတညွတ်တည်း လက်ခံလျှင် အက္ခရာ "ဤ" ကိုပင် "ကွဲ" ဟု ဖတ်နိုင်သကဲ့သို့ အများက တညီတညွတ်တည်း ပြဌာန်းလျှင် ထိုအတိုင်း ဖြစ်သည်။

(စကားပုံ)

## အိမ်နီးချင်းကောင်းမှ လင်ကောင်းရသည်

အိမ်နီးချင်းကောင်းပါမှ လင်ကောင်းသားကောင်း ရနိုင်သည် ဆိုသကဲ့သို့ ပတ်ဝန်းကျင်မှ အထောက် -အပံ့ကောင်း ရမှသာ အောင်မြင်တိုးတက်နိုင်သည်။

(စကားပုံ)

## အမေ ပုတ်ထဲမှာ မအောင်းဘူး

အမေသည် ပုတ်ထဲ၌ ခိုအောင်းနေလေ့မရှိသကဲ့သို့ လျှို့ဝှက်ထားသော အကြောင်းအရာ တစ်ခုကို တာရှည် မဖုံးကွယ်နိုင်ဘဲ အမှတ်မထင် ပြောမိလျက်သား ဖြစ်သွားသည်။

(စကားပုံ)

# ဝါးနားပင်း ရေသွင်း၍ မဝင်

ဝါးနားပင်းပိတ်ထဲသို့ ရေသွင်း၍ မဝင်နိုင်သကဲ့သို့ ခံယူနိုင်စွမ်းမရှိသူအား မည်မျှပင် သင်ပြပြောဟော စေကာမူ မတတ်မြောက်နိုင်၊ နားမဝင်နိုင်ပေ။

(စကားပုံ)

## အလကားရသည့်နွား သွားဖြဲကြည့်

အလကားရသည့်နွားကိုပင် ကောင်းမကောင်း သွားဖြဲ၍ ကြည့်သကဲ့သို့ အလကားရသည်ကိုပင် ကောင်းမကောင်း စစ်ဆေးကြည့်ရှုနေသည်။

(စကားပုံ)

## အချိုရှာ သကာတွေ့ (စကားပုံ)

အချိုစားလိုသောအခါ သကာကို အသင့်တွေ့သကဲ့သို့ မိမိအလိုဆန္ဒအတိုင်း တိုက်တိုက်ဆိုင်ဆိုင် ဖြစ်ပေါ်လာသည်။

## အိုးချင်းထား အိုးချင်းထိ

ကြိုးများကို စုပုံထားပါက ကြိုးအချင်းချင်း ငြိတွယ်ရှုပ်ထွေးတတ်ပြီး အိုးများကို စုပုံထားပါက အိုးအချင်းချင်း ထိမိခိုက်မိရှိတတ်သည်၊ ထို့အတူ ယောကျ်ားနှင့် မိန်းမသည် နီးစပ်လျှင် ငြိစွန်းသည်။

(စကားပုံ)

## ရွှေရှိုးလို့ မိုးကြိုးပန်

ရွှေမတတ်နိုင်၍ မိုးကြိုးနားတောင်းပန်ထားပါလျက် ရွှေနားတောင်းက ရှိုးသောကြောင့် သူများနှင့်မတူ တစ်မူထူးခြားအောင် မိုးကြိုးနားတောင်းပန်သည်ဟု ပြောဆိုသကဲ့သို့ မတတ်နိုင်၍ အညံ့စားသုံးဆောင်ရသည်ကိုပင် အကောင်းစားကို မနှစ်သက်၍ တမင် မသုံးဆောင်လေဟန် ကြွားလုံးထုတ်သည်။

(စကားပုံ)

## ဝါးလုံးခေါင်းထဲ လသာ (စကားပုံ)

ဝါးလုံးခေါင်းအတွင်း၌ လသည် အရာမဟုတ်ဘဲ သာသည်ဆိုသကဲ့သို့ ကျဉ်းမြောင်းသော အသိုင်းအဝန်းအတွင်း အရာမဟုတ်ဘဲ ဟန်ရေးပြသည်။

## ဟင်းစားသာပေး၊ ကွန်ချက် မပြနှင့်

တံငါတို့သည် ဟင်းစားသာပေး၍ ကွန်ချက်ကိုမူ သူတစ်ပါးအား မပြသကဲ့သို့သူတစ်ပါးအား သင့်လျော်သလို ဝေဖန်ပိုင်းခြား၍ ဖြန့်ဖြူးထောက်ပံ့ကူညီပါ။ သို့သော် မိမိတစ်သက်လုံး လက်သုံးပြုရမည့် နည်းနာများ၊ လျှို့ဝှက်ချက်များကို ထုတ်မပေးပါနှင့်။

(စကားပုံ)

# ဝက်ဖြစ်မှတော့ မစင်မကြောက်

ဝက်ဘဝသို့ ရောက်လာမှ မစင်ကို ရွံရှာနေ၍ မဖြစ်နိုင်သကဲ့သို့ နိမ့်ကျသော ဘဝသို့ ရောက်လာမှ နိမ့်ကျသည်ဟု ယူဆကြသော အရာများကို ရှောင်ရှား၍ မဖြစ်နိုင်ချေ။

## အမှိုက်ကစ ပြသာဒ် မီးလောင်

အမှိုက်ကစ၍ လောင်သောမီးသည် ဂရုမစိုက်သဖြင့် ပြသာဒ်ကြီးတစ်ခုလုံး ကူးစက်လောင်ကျွမ်းသကဲ့သို့ ပြဿနာအသေးအမွှားကို ဂရုမစိုက်ဘဲ လျစ်လျူရှုထားသဖြင့် ကြီးမားသော ပြဿနာဖြစ်လာသည်။

(စကားပုံ)

## အရိပ်နေနေ အခက်ချိုးချိုး (စကားပုံ)

အရိပ်၌ခိုရင်း အရိပ်ခိုရန်အပင်၏ အကိုင်းအခက်ကို ချိုးဖဲ့ဖျက်ဆီးသကဲ့သို့ မိမိခိုကိုးရာ ကျေးဇူးရှိသူအား နစ်နာအောင် ကြံဆောင်ပြုလုပ်သည်။

## အရှူး အမဲသားကျွေးမိ

အရှူးကို အမဲသားကျွေးမိသဖြင့် အမဲသားကို တန်းတန်းစွဲဖြစ်သကဲ့သို့ မတွေ့စဖူးသော အတွေ့အကြုံကို တွေ့ရ၍ တန်းတန်းစွဲ ဖြစ်သည်။

(စကားပုံ)

## လူတန် ကံချ

လူ ညံ့ဖျင်း၍ မဖြစ်မြောက်သည်ကို ကံမကောင်း၍ဟု ကံကို လွှဲချသကဲ့သို့ လုပ်ကိုင်သူက ဖြစ်မြောက်အောင် မလုပ်နိုင်သည်ကို တစ်စုံတစ်ခုအပေါ် လွှဲချသည်။

(စကားပုံ)

## အရှူးပုံမြှောက် ခြေထောက်လို့က

အရှူးကိုမြှောက်ပင့်ပြီး ပုံတီးပေးပါက ခြေတစ်ချောင်းထောက်၍ ကသည် ဆိုသကဲ့သို့ အရှူးအမူး ဝါသနာကြီးသူကို အနည်းငယ်စပေးပါက အဟုတ်မှတ်၍ သဲသဲမဲမဲ ပြုလုပ်တတ်သည်။

(စကားပုံ)

# လှေနံ ဓားထစ်

လှေပေါ်မှ ရေထဲကျသွားသော ဓားကို ရှာရန် ဓားကျသည့်နေရာမှ လှေနံကို ဓားထစ်၍ မှတ်သားထားသကဲ့သို့ အကျိုးအကြောင်း မဆင်ခြင်ဘဲ တရားသေ စွဲမှတ်ထားသည်။

(စကားပုံ)

## အရပ်ရှိမှ အရိပ်ထွက်

မိမိ၏ အလုံးအရပ် အနေအထားပေါ် မူတည်၍ အရိပ်ထွက်မည် ဖြစ်သကဲ့သို့ မူလအခြေခံရှိမှသာ အောင်မြင်မှု ဖြစ်ထွန်းနိုင်မည်။

အရပ်ရှိသဖြင့် အရိပ်ဖြစ်လာရသကဲ့သို့ ပြုလုပ်ခဲ့သော အမှုကိစ္စကြောင့်သာ အကျိုးတရား ဖြစ်လာသည်။

(စကားပုံ)

## အသံကြောင့် ဖားသေ (စကားပုံ)

ဖားသည် သူ၏အော်သံကြောင့် ရန်သူ့လက်ချက်ဖြင့် သေရသကဲ့သို့ နုတ်မစောင့်မှုကြောင့် ပျက်စီးဆုံးရှုံး ရသည်။

## လည်လွန်းသည့်ဘီး ချေးသင့်

လည်ဖန်များလွန်းသော ဘီးသည် တစ်ကြိမ်ကြိမ်တွင် မစင်ပုံကို နင်းမိသကဲ့သို့ လည်ပတ်လွန်းသောသူသည် တစ်ချိန်ချိန်တွင် အကြောင်းမလှ ဖြစ်သည်။

(စကားပုံ)

## အရင်းမစိုက် လှေထိုးလိုက်

ငွေအရင်းအနှီး မစိုက်ရသော လှေထိုးသမားအလုပ်ကို ဝင်လုပ်သကဲ့သို့ အရင်းအနှီးများစွာ မစိုက်ရဘဲ အကျိုးအမြတ် အလွယ်တကူ ရနိုင်မည့်အလုပ်ကို လုပ်သည်။

(စကားပုံ)

## အလှူရှင်မှန်းသိအောင် မဏ္ဍပ်တိုင်တက်

အလှူရှင်မှန်းသိအောင် မဏ္ဍပ်တိုင်တက်ပြသည် ဆို-သကဲ့သို့ မိမိလုပ်ဆောင်ချက်ကို လူတကာ မသိသိအောင် ထုတ်ဖော်ဝင့်ကြွားသည်။

(စကားပုံ)

## အနာမသိ ဆေးမရှိ (စကားပုံ)

မည်သည့်ရောဂါဖြစ်နေသည်ကို မသိပါက မည်သည့် ဆေးပေးရမည်ကို မသိနိုင်သကဲ့သို့ ပြဿနာ အကြောင်းအရင်း မသိပါက ဖြေရှင်းရန် နည်းလမ်း မရနိုင်။

## အနာတက် ဆေးချက်မရှိ

ရောဂါ အလွန်ပြင်းထန်နေချိန်တွင် ဆေးစွမ်း ဆေးချက် မပြနိုင်သကဲ့သို့ စိတ်ဓာတ် ပြင်းနေချိန် တွင် အကျိုးသင့် အကြောင်းသင့် ပြော၍ နားမဝင် နိုင်ချေ။

(စကားပုံ)

## ဟင်းတစ်ခွက် တောင်ဘက်ကချို။

ဟင်းတစ်ခွက်တည်း ဖြစ်ပါလျက် တောင်ဘက်ခြမ်းက ပိုချိုသည်ဆိုသကဲ့သို့ အတူတူချင်းဖြစ်ပါလျက် မျက်နှာလိုက်၍ ခွဲခြားဆက်ဆံသည်။

(စကားပုံ)

## အိမ်အိုမှ စားဖိုထုတ်

အိမ်အိုသောအခါမှ စားဖိုဆောင် ထုတ်ခြင်းဖြင့် အိမ်အတွင်း၌ စွဲနေသော ကျပ်ခိုးများ မပျောက်နိုင်သကဲ့သို့ အရွယ်လွန်မှ အလှပြင်ဆင်နေခြင်းဖြင့် ပြန်လည်နုပျိုမလာနိုင်။

(စကားပုံ)

# အိုင်သာလို့ ကြာပေါက်။ (စကားပုံ)

ရေအိုင်သာယာသဖြင့် ကြာပင်များ များပြားစွာ ပေါက်သကဲ့သို့ တိုင်းပြည်အေးချမ်းသာယာသဖြင့် အရပ်လေးမျက်နှာမှ ရှင်လူအများ စည်ကားစွာ လာရောက်ကြသည်။

"အိမ်သာတော့ ညှော်လာတာပေါ့ သမီးရဲ့၊
အိုင်သာတော့ ကြာပေါက်သတဲ့။"

အိမ်သာတော့ ညှော်လာနှင့် အတူတူ။

## အိုးသည် အိုးကောင်းမသုံးရ

အိုးကောင်း၊ အိုးသန့်များကို ဝယ်သူတို့အား ရောင်းလိုက်ရသဖြင့် အိုးသည်သည် အိုးကောင်း မသုံးရသကဲ့သို့ မိမိ လက်ဖြစ် ပစ္စည်းကောင်းကို မိမိ အသုံးမပြုလိုက်ရဘဲ ရှိသည်။

(စကားပုံ)

## အရင်းလဲ အဖျား ထင်းဖြစ် (စကားပုံ)

သစ်ပင်၏ အရင်းပိုင်း ပြိုလဲသည့်အခါ အဖျားပိုင်းသည် အလိုအလျောက် ထင်းဖြစ်ရသကဲ့သို့ မူလအရင်းခံ ပျက်စီးလျှင် အဆွယ်အပွား တို့သည် အလိုအလျောက် ပျက်စီးကြသည်။

"တဏှာတစ်ခုကို ဖြုတ်နိုင်တဲ့အတွင်းမှာဖြင့် အရင်းလဲ၊ အဖျားထင်းဖြစ် ဆိုတာလို အပိုအမို ကိလေသာတွေဟာ တစ်ခါတည်း ကွာကျပါလိမ့်မယ်။"

မြန်မာစကားပုံ

## ဦးစပါး ပဲ့ပြောင်း၊ ပဲ့စပါး ဦးပြောင်း

လှေဦးပိုင်းမှ စပါးကို ပဲ့ပိုင်းသို့ပြောင်း၍ ပဲ့ပိုင်းမှ စပါးကို ဦးပိုင်းသို့ ပြောင်းသကဲ့သို့ အကြောင်းမထူးဘဲလျက် အစီအစဉ် အနေအထားများကို ကပြောင်း -ကပြန် ပြုလုပ်သည်။

(စကားပုံ)

## အသားလိုလို့ အရိုးတောင်း

အသားကို လိုချင်၍ အရိုးကို တောင်းသကဲ့သို့ မိမိ လိုသည်ကိုရရန် လိုသည်အောက် လျှော့ပေါ့၍ တောင်းသည်။

(စကားပုံ)

# အနုပ်မက်၍ အခွက် ပျက်

အကြွေအနုပ်ကို မစွန့်လွှတ်နိုင်သဖြင့် ငွေခွက်ကြီး တစ်ခုလုံး ဆုံးရှုံးသွားရသကဲ့သို့ အနည်းငယ်သော အကျိုးကို ခုံမင်တွယ်တာမိသဖြင့် များစွာသော အကျိုးကို ဆုံးရှုံးရသည်။

(စကားပုံ)

## လမ်းဆုံးလျှင် ရွာတွေ့ (စကားပုံ)

လူသွားလမ်းကိုတွေ့၍ ထိုလမ်းအတိုင်း အဆုံးအထိ လိုက်သွားလျှင် ရွာကို တွေ့နိုင်သည်။ ထိုနည်းတူ အလုပ်တစ်ခုကို အဆုံးတိုင်လုပ်လျှင် အောင်မြင်မှု အကျိုးတရား ရနိုင်သည်။

(စကားပုံ)

## အတွင်းထရံ အပြင်ကာ၊
## အပြင်ထရံ အတွင်းကာ။

---

ဝါးထရံနှစ်ထပ်ကာရာတွင် အတွင်းထရံကို အပြင်၊ အပြင်ထရံကို အတွင်း၌ ထား၍ ကာသည်ဆိုသကဲ့သို့ ယုံကြည်စိတ်ချရသည့် လူရင်းကို အတွင်းလူအဖြစ် မထားဘဲ မယုံကြည်ထိုက်သည့် လူစိမ်းကို အတွင်းလူ အဖြစ်ထားသည်။

(စကားပုံ)

## အရေးကောင်း ဒိန်းဒေါင်းဖျက်

အရေးကောင်း ဒိန်းဒေါင်းဖျက်ဆိုသကဲ့သို့ အရေးကြီးသော ကိစ္စပြုနေချိန်တွင် မလိုလားအပ်သည့် အနှောင့်အယှက် ဝင်သည်။

(စကားပုံ)

## အကမတတ် ဖျာခေါင်းချ

အကမတတ်သဖြင့် အဆင်မပြေဖြစ်သည်ကို ဖုံးကွယ်ရန် ဖျာကို ယိုးမယ်ဖွဲ့၍ အပြစ်လွှဲချသကဲ့သို့ မိမိ မစွမ်းဆောင်နိုင်သည်ကို ဖုံးကွယ်ရန် အကြောင်း တစ်စုံတစ်ရာ ရှာကြံ၍ အပြစ်လွှဲချသည်။

(စကားပုံ)

## အမေရိုက် အမေကယ်ပါ၊
## အဖေရိုက် အဖေကယ်ပါ။

အပြစ်ကျူးလွန်းမိသော သားသမီးအဖို့ အပြစ်ဒဏ်မှ ကင်းလွတ်ရေးမှာ အဖေ အမေ၌ လုံးဝတည်သကဲ့သို့ အမှား တစ်စုံတစ်ရာ ကျူးလွန်မိခဲ့ပြီးဖြစ်၍ ကြိုက်သလိုပြစ်ဒဏ် စီရင်နိုင်ပါသည်။

(စကားပုံ)

## အသီးတစ်ရာ အညှာတစ်ခု

အခိုင်တစ်ခုတွင် အသီးတစ်ရာပင် ရှိလင့်ကစား အညှာမှာ တစ်ခုတည်းသာ ဖြစ်သကဲ့သို့ အသွင်သဏ္ဍာန်အားဖြင့် ထွေပြားစွာ ရှိလင့်ကစား အခြေခံမူလမှာ တစ်ခုတည်းသာ ဖြစ်သည်။

(စကားပုံ)

## အိမ်ကြက်ချင်း အိုးမဲသုတ်

အိမ်ကြက်အချင်းချင်း အထင်မှားပြီးခွပ်အောင် အိုးမဲသုတ်ပေးသကဲ့သို့ အချင်းချင်း အထင်မှားပြီး ရန်ပွားအောင် သွေးခွဲ ရန်တိုက်ပေးသည်။

(စကားပုံ)

# အိပ်ချင်ယောင်ဆောင်သူ အနှိုးရခက်

တကယ်အိပ်မပျော်ဘဲ အိပ်ချင်ယောင်ဆောင်နေသူကို အနှိုးရခက်သကဲ့သို့ သိလျက်နှင့် မသိဟန်ဆောင်သူကို လက်ခံလာအောင် ပြောရခက်သည်။

(စကားပုံ)

# ဝိနည်းတတ် ကြက်သတ် (စကားပုံ)

ဝိနည်းတတ်သူသည် ဝိနည်းလွတ်အောင် လက်တစ်လုံး ခြားရှောင်၍ ကြက်သတ်သည်ဆိုသကဲ့သို့ ဥပဒေစည်းကမ်း တတ်ကျွမ်းသူက ဥပဒေလွတ်အောင် လက်တစ်လုံးခြား ရှောင်၍ အပြစ်ကျူးလွန်သည်။

“ဝိနည်းတတ်ရင် ကြက်သတ်၊ ပရိယာယ်ပိုင်ရင် နိုင်ချင်တိုင်းနိုင်လို့ ဆိုကြပေမဲ့ အတိအကျဝေဖန်ချက် ချကြည့်လိုက်လျှင် အကောင်းစု ထဲမှာတော့ ထည့်ပြီးတွက်ချက်ဖို့ မထားထိုက်ပေဘူးပေါ့။”

မြန်မာစကားပုံ

## ဝန်နှင့်အား မြားနှင့်လေး

သယ်ဆောင်ရမည့်ဝန်နှင့် သယ်ယူသူ၏အင်အား၊ ပစ်ရမည့် မြားနှင့် လေး၏ပစ်အား မျှတရသကဲ့သို့ ဆောင်ရွက်မည့် အမှုကိစ္စနှင့် စွမ်းဆောင်သူ၏ စွမ်းရည် မျှတရမည်။

(စကားပုံ)

## ဟင်းချိုမပြည်းရခင် နှုတ်ခမ်းစွေ့နှင့်သည်။

ဟင်းချိုမပြည်းရခင်ကပင် နှုတ်ခမ်းစွေ့ထားနှင့်သည် ဆိုသကဲ့သို့ အခွင့်အရေးမရမီကပင် ထက်သန် တက်ကြွလွန်းနေသည်။

(စကားပုံ)

# အညှီရှိ ယင်အုံ

၁။ အညှီနံ့ရှိရာ ယင်အုံသကဲ့သို့ အပျိုရှိရာ လူပျို လာတတ်သည်။

၂။ အညှီနံ့ရှိရာ ယင်အုံသကဲ့သို့ ဆွဲဆောင်မှုရှိရာသို့ ထိုကိစ္စ၌ ကျက်စားသူများ လာတတ်သည်။

(စကားပုံ)

မြန်မာစကားပုံ

## အရိပ်ပြ အကောင်ထင်

အရိပ်ကို ပြရုံမျှဖြင့် မည်သည့်အကောင်ဖြစ်သည်ကို သိနိုင်သကဲ့သို့ အရိပ်အမြွက်ပြရုံနှင့် ဆိုလိုရင်းကို သိနိုင်သည်။

(စကားပုံ)

# အရှင်သုံးတော့ ဓားမတုံး ထက်

အရှင်သခင် အသုံးပြုသည့်အခါ တုံးနေသော ဓားမ ပင် ထက်လာသကဲ့သို့ အကြီးအကဲ ချီးမြှင့်မြှောက်စား သည့်အခါ အရည်အချင်း နုံ့သူပင် အရေးပါ ထွင်ကျယ်လာသည်။

(စကားပုံ)

## ဟင်းစားကြက် အတက်ကောင်းပေါက်

ဟင်းစားကြက်မှ အတက်ကောင်းပေါက်၍ ခွပ်ကြက် ဖြစ်ထွန်းလာသည်ဆိုသကဲ့သို့ မမျှော်လင့်သော အသိုင်းအဝိုင်းမှ ဖြစ်တောင့်ဖြစ်ခဲ ထူးချွန်ပြောင် မြောက်သူ ဖြစ်ထွန်းလာသည်။

(စကားပုံ)

## အကျိုးလိုလို့ ညောင်ရေလောင်း ပတ်ထမ်းတွေ့

တစ်စုံတစ်ခုသော အကျိုးကို မျှော်မှန်း၍ ညောင်ရေပွဲကို နွှဲရာမှ ပတ်မကြီးဝင်ထမ်းရသကဲ့သို့ အကျိုးတစ်စုံတစ်ရာ ရမည်ဟု မျှော်မှန်း၍ ပါဝင်ဆောင်ရွက်ခါမှ ထင်သလိုဖြစ်မလာဘဲ အဆိုးနှင့်ကြုံသည်။

(စကားပုံ)

## အဖျားတက် အမှည့် ရနိုးနိုး

လက်လှမ်းမီသည့် အသီးကို မဆွတ်ဘဲ အသီးမှည့် ရနိုးနိုးဖြင့် သစ်ပင်ထိပ်ဖျားတိုင်အောင် တက်သကဲ့သို့ လက်ငင်းရနိုင်သည်ကို လက်လွှတ်၍ ထိုထက်သာသည်ကို ရနိုးနိုးဖြင့် စံရှေးနေသည်။

(စကားပုံ)

## အမဲရိုးနှယ် ဟင်းအိုးမှ အားမနာ

အိုးကောင်းနှင့်မတန်သော အမဲရိုးသည် အိုးကောင်းကိုပင် အားနာရမှန်းမသိဘဲ အိုးထဲ၌ သူချည်း နေရာယူချင်သည် ဆိုသကဲ့သို့ ကိုယ်နှင့် မတန်မရာကိစ္စမျိုးကို အားပါးမနာ ကြံစည်မျှော်မှန်းသည်။

(စကားပုံ)

## အရပ်ကောင်းမှ အလောင်းလှ

အရပ်က စေတနာကောင်းနှင့် ကူညီထောက်ပံ့ကြမှသာ ကွယ်လွန်သူကို ကောင်းကောင်းမွန်မွန်၊ လှလှပပ သဂြိုဟ်နိုင်သကဲ့သို့ အသိုင်းအဝိုင်းကောင်းမှ တင့်တောင့်တင့်တယ် ဖြစ်နိုင်သည်။

(စကားပုံ)

## အကြောင်းတော် တောင်ပေါ်ရေစီး။ (စကားပုံ)

အကြောင်းတရား တိုက်ဆိုင်လာသည့်အခါ
တောင်ပေါ်သို့ ရေစီးသည်ဆိုသကဲ့သို့
အကြောင်းသင့်သောအခါတွင် ဖြစ်တောင့်
ဖြစ်ခဲကိစ္စ ပေါ်လာသည်။

# အပွေးမြင် အပင်သိ။

သစ်ပင်၏အပွေးကို မြင်ကာမျှဖြင့်
မည်သည့်အပင်ဖြစ်သည်ကို သိနိုင်သကဲ့
သို့ လူတစ်ယောက်၏ နုတ်အမူအရာကို
တွေ့မြင်ကာမျှဖြင့် သူ၏အတွင်းသဘောကို
သိမြင်နိုင်သည်။

"ဒီလောက်ကြာရင် အပွေးမြင် အပင်သိ ဆိုတာလို
ကိုမင်းနိုင်ရဲ့ စိတ်ကို သိလောက်ပါပြီ။"

## အကြံကုန် ဂဠုန်ဆားချက်

အကြံကုန် ဂဠုန်ဆားချက် ဆိုသကဲ့သို့ နည်းမျိုးစုံဖြင့် မအောင်မြင်သည့်အဆုံး ရတတ်သမျှ ဉာဏ်ထုတ်၍ ကြံဖန်လုပ်ကိုင်သည်။

(စကားပုံ)

## အကွပ်မရှိတဲ့ကြမ်း ပရမ်းပတာ

အကွပ်မရှိသော ကြမ်းသည် ဖရိုဖရဲ မသေမသပ် ဖြစ်နေသကဲ့သို့အထိန်းအကွပ်မရှိသောလူ၊ သို့မဟုတ် အဖွဲ့အစည်းတို့သည် ပရမ်းပတာဖြစ်နေသည်။

(စကားပုံ)

## အရှူးက တစ်မူးသာ

ကျပ်မပြည့်ဟု ယူဆရသူက ကျပ်ပြည့်ရုံမျှမက တစ်မူးဖိုးပင် သာသွားပြန်သကဲ့သို့ အထင်ကြီးစရာ မရှိသူက ဟုတ်ဟုတ်ညားညား ပြောဆိုသည်။

(စကားပုံ)

## အတတ်ကြူး ဘီလူးဖြစ်

သူတစ်ပါးထက် ထူးခြားလို၍ လူသားစားပြီး ဆေးထိုးရသော မှော်အတတ်ကို သင်ယူမိရာမှ သားစားဘီလူးဖြစ်သွားရသကဲ့သို့ မဟုတ်သည့်ဘက်၌ အတတ်လွန်ကဲပြီး ပြောမနိုင် ဆိုမရ အစွန်းရောက်သွားသည်။

(စကားပုံ)

## အစာဝတော့ ဌာနပြန် (စကားပုံ)

အိမ်၌ ကောင်းမွန်စွာ ကျွေးမွေးပြုစုထားသော ရွှေကျေးသည် အစာဝသောအခါ နေရင်းဌာနတောသို့ ပြန်သွားသကဲ့သို့ လိုဘမပြည့်မီ အခိုက်အတန့် ခိုလှုံနေရာမှ လိုဘပြည့်စုံသည့်အခါ စွန့်ခွာထွက်သွားသည်။

## ဥစ္စာရှင်လို ဥစ္စာရှင်ခဲ

ဥစ္စာရှင် ဖြစ်လိုသော် ဥစ္စာရှင်ဖြစ်အောင် ကိုယ်တိုင် အားခဲ၍ ကြိုးပမ်းရသကဲ့သို့ မိမိ၏ လိုအင်ဆန္ဒကို အကောင်အထည်ပေါ်အောင် သူတစ်ပါးကို အားမကိုးဘဲ မိမိကိုယ်တိုင်သာလျှင် အားစိုက်၍ ကြိုးပမ်းရသည်။

(စကားပုံ)

## အဖထက် သားတစ်လကြီး

အဖထက် သားတစ်လကြီးဆိုသကဲ့သို့ မိဘဆရာ သမားများကို ကျော်လွန်၍ လူသိလူတတ် လုပ်သည်။

(စကားပုံ)

## ဂါထာပေး တေးဖြစ်

ဂါထာမန္တန်ကို တွေ့ရာလူအား ပေးမိရာ ရသူများက အလွယ်တကူ ရသောကြောင့် ပေါ့ပေါ့တန်တန် ရွတ်ဆိုသဖြင့် တေးအဖြစ် ရောက်ရသကဲ့သို့ တန်ဖိုးရှိသောအရာကို တွေ့ရာလူအား ပေးမိရာ အလွယ်တကူ ရခြင်းကြောင့် တန်ဖိုးမရှိ ဖြစ်သွားသည်။

(စကားပုံ)

## ဂဠုန်ပြည် ဂဠုန်၊ နဂါးပြည် နဂါး။

နဂါးပြည်တွင် နဂါးမင်းမူ၍ ဂဠုန်ပြည်တွင် ဂဠုန်မင်းမူ သကဲ့သို့ သူ့နေရာတွင်သူ ကိုယ့်နေရာတွင်ကိုယ် တွင်ကျယ်ကြသည်။

(စကားပုံ)